အချစ်သည် ဤရှိဤမျှဆိုလျှင်
အလွမ်းသည် ဘယ်ရွေ့ ဘယ်မျှပါလဲ. .

× × ×



ပထမနေ့. .

ဖျတ်ခနဲ အကြည့်အရှေ့။

လင်းလက်သွားသော ကြယ်စင်တန်း၊ အိုး. . လှလိုက်တာ။ သစ်ပင်တန်းတစ်လျှောက်လုံး လန်းဆတ်သော ကိုယ်သင်းနံ့။

ရင်က သတ်မှတ်ထားသည်ထက် ပိုခုန်သွားသယောင်။

× × ×

# အမှုတွဲ ၂

ဒုတိယနေ့. .

ပြိုးခနဲ ပြက်ခနဲ ဝင်းပလာသော အလှတရား။

အရောင်သာ ပြောင်းသွားသော်လည်း အဆင်းက မပြောင်း။

ပြိုးစစဟု ဆိုရမှာလား။ နှုတ်ခမ်းထောင့်ကွေး လေးက အနေတော်။

× × ×

တတိယနေ့. .

သူမ၏ မျက်ဝန်းနက်ကို ထုပ်ပိုးပြီးအသင့် ဖျတ်ခနဲ လက်ခံရရှိသည်။

နောက် ပွင့်ဟသွားသောနှုတ်ခမ်း။

စတုတ္ထနေ့. .

ရှုးစမ်းသောအကြည့်။

ပဥ္စမနေ့. .

"တူတူရေဝါး"ဆိုသည်နှင့် သူမပြုံးရန်အသင့်။

ဆဋ္ဌမနေ့. .

လမ်းမပေါ် ဖျတ်ခနဲ. . သူမလဲ အံ့အားသင့်သွားဟန်၊

ဝမ်းသာလုံးဆို့မည်စိုး၍ သက်ပြင်းချရတာအမော. .

. . . နေ့. .

တိုက်စစ်ဆင်ရန်အသင့်. .

× × ×

# အပိုဒ် ၄

အေးမြသော သစ်ပင်တန်းရိပ်အောက် ပူပြင်းသောရင်နှင့် သူမကို စောင့်နေမိသည်။

မကြာမီ လှမ်းလာတော့မည့် ခြေသံနီနီ။

နှလုံးသားထဲ မေ့ဆေးမသုံးဘဲ ရောဂါပေါင်းစုံအသွင်းခံထားရသလို မွန်းကြပ်။

အားလုံးပိုင်ဆိုင်သော ပဒေသာမြေပေါ် ပိုင်စိုးပိုင်နင်း လှမ်းလာမည့် သူမ။ ကျွန်တော့်အတွက် နတ်ဘုရားသာမက ကမ္ဘာလောကအတွက် နတ်ဘုရားမ။ သူမလာရာလမ်းကို မျှော်မှန်းရင်း ခန္ဓာကိုယ်က နာမကျန်း

မြစ်ချောင်းနေမိသည်။

"တော"

ထိတ်ခနဲခုန်သော ရင်ခုန်သံ အပြင်သို့ထွက်မကျစေရန် အမြန်ဖုံးဖိထားလိုက်ရသည်။

ဖြည်းညင်းစွာ လျှောက်လှမ်းလာသော ခေတ်၏သမီးပျို။ ဘယ်လိုကြည့်ကြည့် မရိုးနိုင်သော ပြုံးစစမျက်နှာလေး။ လွှတ်ခနဲငေးကြည့်နေမိသည်။ တစ်ကမ္ဘာမျှသာ။

အသိတရားတို့ ရုတ်ခြည်းပြန်ပြေးကပ်ချိန်။

"ဟာ"

အလှနတ်ဘုရား၏ ကိုယ်သင်းနံ့က သူ့ကို ဖြတ်ကျော်နေပေပြီ။

ကမန်းကတန်းဖြင့် ခြေလှမ်းကို အမြန်ပြန်စ။

အလို၊ ခြေထောက်က သွေးကျပြီး ယိုင်နဲ့နေသလားလို့။

"မြိုင်"

ခေါ်သံကြောင့် မိန်းမလှလေး လှည့်ကြည့်သည်။ ထိုအကြည့်၌တင် အပိုပါမလာသော ထိုမျက်နှာကို ဘယ်နားထားရမှန်းမသိ။

"အဟဲ"

ပြုံးကြည့်သည်။ သာမန်အချိန်ထက် ပါးစပ်က ပိုပြဲနေမှန်းသိသည်။ သို့သော် လျှော့မရတော့။

"တောက် ဒီပါးစပ်မှာ ဝက်အူပါရင်ကောင်းသား"

ဟု မဆီမဆိုင် တွေးမိသည်။ မှန်သည်။ ထိုသို့ပါမှ လိုသလောက်ပြန်ရစ်ချမှ ကျမည့်အပြုံးမျိုး။

"အောင်သူရိန်ပါ မှတ်မိတယ်မဟုတ်လား"

သူမမျက်နှာက ရှိုးတိုးရှန့်တန့်။ သူကသာ အနားကပ်၍

"ပလာဇာမှာလဲ ခဏခဏဆုံတယ်လေ၊ ကိုယ်လဲ အဲဒီဖက်

က"

သူမအမှုအရာပျက်ချင်ချင်။ သူမ၏လည်ကုပ်ကို အကြောင်းမဲ့ ပြန်ကုတ်သည်။ သူလဲ အားတင်းပြီး

"ကျွန်တော် နေ့စဉ် ဒီလမ်းမှာ စောင့်ကြည့်နေတာ"

သူမ၏မျက်နှာလေး ရဲတက်လာသည်။ သူက ကတုန်ကယင် ဖြစ်နေ၍ ဘောင်းဘီအိတ်ထဲ ထည့်ဖွက်ထားရသောလက်တစ်ဖက် ရှေ့ထုတ်ကာ

"နေ့တိုင်း ဒီလမ်းကို တစ်ယောက်တည်း လျှောက်တတ်လား"

သူ့၏အမေးကို ကြားလိုက်ရသောအသံက

"အောင်မလေးလေ တစ်ယောက်တည်း လျှောက်တာလားတဲ့၊ သူမို့လို့ မေးရက်တယ်၊ ဟဲ့ မြိုင်ပြောပြလိုက်လေ၊ ငါပါတယ်လို့"

ထိုသို့ အသံကျယ်ကျယ်ကြားလိုက်ရ၍ အံ့အားသင့်သွားသည်။ ထို့ကြောင့် ဘေးဘီဝေ့ကြည့်ရင်း နှုတ်မှ

"ဘယ်က ကြားလိုက်ရတဲ့

ဒီမျက်နှာပျက်ကြီးနဲ့
ရက်နေသေး။
နေ့စဉ်နေ့တိုင်း
ငါ့မြေးနဲ့ငါ ဒီလမ်းက
လျှောက်နေကျ ဒါကို
နေ့တိုင်း
မသမာတဲ့ မျက်လုံးကြီးနဲ့
လာချောင်းနေပြီတော့မျာ။

အသဲဆိုတဲ့ဝါလိမ့်”

သူ့စကားလဲကြားရော ထပ်ကြားရသည်က

“အောင်မလေး ကျောင်းတောင်ကန်းနဲ့ လာတွေ့နေရတယ်၊ တဲ့ ငါဒီမှာဟဲ့၊ အောက်လဲငုံ့ကြည့်ဦး”

ထိုတော့မှ ငုံ့ကြည့်လိုက်တော့

“ဟင်”

ဗိုးချဲလ်တစ်ခု။ ဗိုးချဲလ်ပေါ် ရှိနေသည်က

“ဟင် ဘယ်ကမျောက်ကြီးလဲ”

အံ့အားသင့်စွာ နှုတ်ကထွက်သွားသော စကားသံ။ တစ်ဖက်မှ ဆတ်ဆတ်ခါသွားပြီး

“ဟင် ကြည့်စမ်း ကြည့်စမ်း၊ ငါ့ကိုများ မျောက်ကြီးတဲ့”

ထိုစကားကြားတော့ မျက်လုံးအစုံ ပြူးကျယ်သွားပြီး

“ဟင် မျောက်က လူစကားတတ်တယ်ဟ”

ရုတ်တရက် လန့်အော်မိသည်။ ဒါကို တစ်ဖက်မှ ပို၍ဒေါသထွက်ပြီး

“ဟင် ဒီကောင်လေး ပြောလေကဲလေပါလား၊ ဟဲ့ မြိုင်၊ နင် ဘယ်လိုလူနဲ့ တွေ့နေတာလဲ”

သူ့မျက်လုံးအပြူးကို မလျှော့နိုင်ဘဲ

“ဩော် လူပဲ၊ ရုပ်ဆိုးလိုက်တာ၊ သူ့ကို ဘယ်သူတွန်းလာလဲ”

သူ့အမေးကို မြိုင်က ဒေါသထွက်ဟန်ဖြင့်

“ကျွန်မအဘွား၊ ကျွန်မတွန်းလာတာပေါ့၊ ဘယ်သူတွန်းလာရမှာလဲ”

“ဟင် မြိုင်တွန်းလာတာ၊ တွေ့လဲမတွေ့မိပါလား”

သူ့စကားကို အဒေါ်ကြီးက မျက်နှာရှုံ့မဲ့ပြီး

“ဘယ်တွေ့မှာလဲ၊ မျက်လုံးပေါ် တဏှာခိုးတွေချည်း ဝေနေ

တာကိုး"

"ဟင် တွေ့လိုက်ရလား၊ ဟင်း ရှက်စရာကြီး ခစ် ခစ်"

အရေးထဲ သူက မျက်နှာကြီးနီပြီး ရှက်နေသေး၏။

"အောင်မယ်၊ ဒီမျက်နှာပျက်ကြီးနဲ့ ရှက်နေသေး၊ နေ့စဉ်နေ့တိုင်း ငါ့မြေးနဲ့ငါ ဒီလမ်းက လျှောက်နေကျ၊ ဒါကို နေ့တိုင်း မသမာတဲ့ မျက်လုံးကြီးနဲ့ လာချောင်းနေပြီးတော့မှား၊ ဟဲ့ မြေးလေး"

"ရှင် အဘွား"

သူ့နှတ်သမီးက ပြန်ထူးသည်။

"ညည်းကို ငါမပြောလား၊ ဒီကောင့်မျက်လုံးက မသမာပါဘူးလို့၊ တကတည်းတော် မြေးနဲ့အဘွား အတူလာတာ၊ အဘွားမမြင်ဘဲ မြေးပဲမြင်ရတယ်လို့၊ အမေနဲ့သမီးလာရင် သမီးပဲမြင်တယ်ဆိုတဲ့ မျက်လုံးမျိုး၊ ပွင့်ပွင့်လင်းလင်းပြောရရင် နှာဘူးမျက်လုံးပါတော်"

အဘွား၏စကားကို သူက ရှက်ဟန်နှင့် ရယ်ကြဲကြဲလုပ်လိုက်ပြီး

"ဟာ အဘွားကလဲ၊ အဘွားက လမ်းမှ လျှောက်မလာတာ ဘယ်မြင်ပါ့မလဲ"

"ဟဲ့ အောက်ပိုင်းချိနေပါတယ်ဆိုမှ ဘယ်လိုလမ်းလျှောက်မှာတုန်း၊ တကတည်း လေဖြတ်ထားပါတယ်ဆိုမှ သူ့ကို ကြိုးခုန်ပြရမလို ဖြစ်နေပြီ"

"ကြိုးယူပေးရမှာလား"

"အဲဒီကြိုးနဲ့ နင့်လည်ပင်းသာစွပ်ပေ့"

"အွတ်"

"ကဲ ငါ့မြေးသွားမယ်၊ ဒီဆန်ကုန်မြေလေးနဲ့ စကားပြောရတာ၊ ပြောရတဲ့ပါးစပ်ပါ လေဖြတ်ချင်ပြီ၊ ကဲ တွန်း"

"ဟုတ် အဘွား"

## ၁၄ အကြည်တော်

တွန်းလှည်းတစ်ခုနဲ့ မိန်းမလှလေးတစ်ယောက် သူ့ကို ဖြတ်ကျော်သွားသည်။ ဟုတ်သား။ မြေးနှင့်အဘွား နှစ်ယောက်လာတာ မြေးပဲမြင်တယ်ဆိုတော့ သူလဲလွန်လွန်းပါ။

ဖြစ်လည်းဖြစ်ချင်စရာ။

အရှေ့ဖက်တွေ့တော့လဲ သူမ၏မျက်နှာကိုသာ တစိမ့်စိမ့်ကြည့်ရင်း။ နောက်ကျော်ကျော်သွားတော့လဲ သူမ၏ခန္ဓာကိုယ်အလှတွင် နစ်မျောရင်း ပိုးချဲလ်ကြီးတစ်ခုလုံး ကျော်ကျော်နေတော့တာပေါ့။

ဒီလိုနဲ့ တစ်ယောက်တည်းမြင်နေတာ ဘယ်နှရက်တောင်ရှိပါ။

ခေါင်းသာကုတ်မိသည်။

× × ×

# အမှတ် ၁၂

ချစ်သူ၏ လာရာလမ်းကို လှမ်းမျှော်နေမိသည်။

ခါတိုင်း သူမအပြင်ထွက်လျှင် ဤလမ်းကသာ ဘတ်(စ်)ကားစီးတတ်ကြောင်း မှတ်တမ်းများ ဖော်ပြချက်အရ သိထားရသည်။

နာရီကြည့်တော့ ရှစ်နာရီနှစ်ဆယ်။

ဒါဆို ဆယ်မိနစ်အတွင်း ဤကားဂိတ်သို့ သူမ ရောက်လာတော့မည်။

အရင့်အရင်နေ့များက ကိုယ်ပိုင်ကားဖြင့်သာ ခပ်ကျော့ကျော့ သွားလေ့ရှိသော်ငြား ယနေ့မှာတော့ ချစ်သူ

တွန်းအားတစ်ခုတည်းနှင့် လိုင်းကားတိုးစီးဖြစ်တော့မည်။

မွေးကတည်းက သေသည်အထိ(အဲလေ)ယနေ့အထိ လိုင်းကားတိုးမစီးဘူးသူ သူ့အတွက် အထူးအဆန်းသဖွယ်။ ဘာပဲဖြစ်ဖြစ် ချစ်သူ့အတွက် စွန့်စားရပေတော့မည်။

"ဟော သူမလာပြီ"

လှပသောခြေလှမ်းနှင့် ညင်သာစွာလှမ်းလာသော ချစ်သူ။ စိမ်းပြာရောင်ထီးကလေးမိုးထားသည့်အောက် ဝါဝင်းစိုပြည်သော အသားအရည်။

ထူးဆန်းသောလမ်းကို လျှောက်လှမ်းရသလိုမဟုတ်ဘဲ တစ်လှမ်းချင်း

"အဟဲ"

ဘယ်လိုမှ ပြန်လျှော့လို့မရသော အပြုံးမျိုးနှင့် ပြုံးပြုံးကြည့်နေသော သူ့ကိုတွေ့တော့ သူမခြေလှမ်း တုံ့သွားသည်။

"ဟီးဟီးဟီး"

သုံးခွန်းသောရယ်နည်းကိုရယ်၍ အနားကပ်မည်ပြင်သည်နှင့်

"လာနော်၊ ခုထွက်မယ်၊ တော်ကြာထွက်မယ်၊ ထွက်ချင်ထွက်မယ်၊ လိုက်ရင်လာ လိုက်ရင်လာ"

ထမင်းငတ်နေသောငှက်ဆိုး ရှတ်တရက်ထအော်သလို စီည်သွားသောအသံ။

အင်္ဂလိပ်လမြင်ပါက ဘယ်မှမသွားတော့ဘဲ ကားဂိတ်မှာထိုင်၍ စိမ်ပြေနပြေဖြတ်ရလောက်သော လက်ညှိုးတထောင်ထောင်လုပ်လာသော မြန်မာ့ကားစပယ်ယာ။ ဘာသာပြန်ရသော် အပိုပစ္စည်းကြီး။

သူနှင့်အတူ လေပြင်းဒဏ်ခံရ၍ ဘယ်နေရာထိထိ

ပြိုကျသွားလောက်သော ဇရပ်အို
ကြီးလိုဘတ်(စ်)ကား။ ကားခေါင်း
က လမ်းလည်သွား၍ ခန္ဓာကိုယ်
ကြီးက ဘေးလာကပ်သည်။

"လာ လာ လိုက်ရင်လာ
ရောက်တယ်၊ ရောက်တယ်၊ ရောက်
တယ်"

ဘယ်ကိုရောက်မှန်းလဲ
မသိ။ ဘယ်ကိုသွားမှန်းမသိသော်
ငြား ချစ်သူက ထီးလေးပိတ်၍
ကားပေါ်တက်သည်။

"အဲ"

လိုင်းကားစီးဖူးသူ မဟုတ်
သော်ငြား နှာခေါင်းက အရှေ့က
ဆွဲညှစ်လိုက်သလို ခန္ဓာကိုယ်က
ကားပေါ် ပျော့ပျော့ကြီးပါတက်
သွား၏။

"ဆွဲဆရာရေ့ ရှေ့မှတ်
တိုင် လူတင်မယ်"

သူအပေါ်ရောက်သည်
နှင့် ကားလေးက ဂလုံးဂလန်းနှင့်
ဆောင့်ထွက်သွားလေရာ

"အို အမေ့"

"ဟာ လုပ်ကြပါဦး"

"ဟဲ့ ဘာလိုက်ကိုင် အို"

ခြေတစ်ချောင်း
ချစရာနေရာပင်
ကတ်သီးကတ်သပ်
ရှာဖွေနေရတာကိုမှ
ပွဲကလို့ရတယ်တဲ့။
ဇာတ်ပွဲတွေကများ
ဒီလောက်တောင်
ကျဉ်းသလား
ဝဥ်းတားဝရား။

ကားကို စီးလေ့စီးထမရှိသူမို့ ကျပ်ညပ်နေသောလူများ အလည် ဘာကိုင်လို့ ကိုင်ရမှန်းမသိဘဲ ကိုင်မိကိုင်ရာ လိုက်ကိုင်မိသည်။

"ဟ ဟ လုပ်ကြပါဦး၊ လုပ်ကြပါဦး"

ခလောက်ဆန်နေသောကားထဲ သူ့တစ်ယောက်တည်း ရှုန်းရင်းဆန်ခတ် ဖြစ်နေသည်။ ဒါကို ရိပ်မိသော ကားဆရာက

"ဟ ဟိုလူ ဘာဖြစ်နေတာလဲ၊ ကွင်း(ဂွင်း)ဆွဲလေ၊ ကွင်းဆွဲ"

စပယ်ယာစကားကြားတော့ သူလဲ ခေါင်းနပန်းကြီးသွားပြီး

"အာ လူကြားထဲ ဘာကွင်းဆွဲရမှာလဲ၊ လူကို ဘယ်အစား မှတ်နေလဲ"

သူ၏အော်သံ။ ဒါကို စပယ်ယာက စိတ်ပျက်ဟန်ဖြင့်

"ဟာ ခင်ဗျားကလဲ ကိုယ်သန်ရာတွေးနေတော့တာပဲ၊ ကား အပေါ်တန်းမှာရှိတဲ့ လက်ကိုင်ကွင်းဆွဲထားလို့ ပြောတာဗျ၊ တကတည်း"

ထိုတော့မှ သူမော့ကြည့်မိသည်။

ဩော် ဟုတ်သား၊ ကားခေါင်မိုးတန်းတွေနားမှာ လက်ကိုင်ကွင်းတွေ ချထားပေသည်ပဲ။

သူ မီရာကွင်းတစ်ခု လှမ်းဆွဲလိုက်သည်။ ထိုတော့မှ သူလဲ အနေမှန်သွားဟန်။

မြိုင်ဆိုသော ချစ်သူကို လှမ်းကြည့်မိသည်။ ချစ်သူက သူနှင့် ခပ်လှမ်းလှမ်း၌ လက်ကိုင်ကွင်းလေးတစ်ခု ဆွဲကိုင်ရင်း မယိမ်းမယိုင် ကပ်ပါလာသည်။

"အလည်ကလူကြီး ရှေ့နည်းနည်းတိုးလေဗျ၊ အရှေ့မှာ ပွဲက လို့တောင်ရတယ်"

စပယ်ယာစကား။ ခြေတစ်ချောင်းချစရာနေရာပင် ကတ်သီးကတ်သပ် ရှာဖွေနေရတာကိုမှ ပွဲကလို့ရတယ်တဲ့။ ဇာတ်ပွဲတွေက များ ဒီလောက်တောင်ကျဉ်းသလား စဉ်းစားစရာ။

ဘာမှ မပြောတော့ဘဲ အရှေ့ကိုတိုးလိုက်သည်။ ချစ်သူနှင့် နီးရမည်ကိုး။

လူက ကြပ်နေသမို့ တော်ရုံနှင့်က တိုးမပေါက်။ ကြားထဲမှာ လူကြီးနှစ်ယောက်နှင့် အဒေါ်ကြီး တစ်ယောက်တို့ ခံနေသေးသည်ကိုး။ သူကြိုးစား၍ ငါးဖယ်တိုး,တိုး ကြည့်သေး၏။

"ကဲ ရှေ့မှတ်တိုင်ဆင်းမှာလေးတွေ ပြင်ထား၊ ကြိုပြီး ထွက်ထားနော်၊ ကားပေါ်ကျန်မှ စိတ်မဆိုးနဲ့"

အော်သံကြားတော့ ချစ်သူ ခြေလှမ်းရွေ့သွားတာ တွေ့ရသည်။ သူလဲ ကမန်းကတန်းနှင့် ကြိုထွက်သည်။ သို့သော် ချစ်သူနားတော့ မရောက်နိုင်။

"ကျွိ"

"ကဲ မှတ်တိုင်ရောက်ပြီ၊ ရောက်တယ်၊ ရောက်တယ်၊ ရောက်တယ်၊ ခရီးသည်များ အဆင်းဦးစားပေးပါ"

ချစ်သူက ကားအပြင်ရောက်အောင် တိုးဆင်းစဉ်

ကားပေါ်မှ
အော်သံ၊
သူမကြားတော့။
ဆောက်နေပြီမို့
ပိုက်ဆံအိတ်ကို ဆွဲရင်း
ချစ်သူနောက်
ကမန်းကတန်း
ပြေးလိုက်မိသည်။

"ဘုတ်"

"ဟာ"

သူ့ခြေရင်းနား ကျကျန်ရစ်သော မိန်းမကိုင်ပိုက်ဆံအိတ်။ သူမကိုကြည့်တော့ အရိပ်အယောင်မျှ မမြင်တော့။

"ပိုက်ဆံအိတ် ကျကျန်ခဲ့ပြီ"

သူလဲ ရရှိသော အခွင့်အရေးကို လက်လွတ်မခံဘဲ ပိုက်ဆံအိတ်ကို ကောက်၍ အပြေးတစ်ပိုင်း ဆင်းလိုက်သည်။

"ဟုတ်ပြီ၊ ပိုက်ဆံအိတ်ပြန်ပေးရင်း ဇာတ်လမ်းဆင်လို့ရပြီတီဟိ"

ရုတ်ခြည်း ရုပ်ရှင်ထဲမှ ပြကွက်များ ပြေးမြင်မိသည်။ မင်းသမီးပိုက်ဆံအိတ်ကျ။ မင်းသားက လိုက်ပေး။ ပိုက်ဆံအိတ်ထဲမှာ အဖိုးတန်အမွေအနှစ်များ။ မင်းသမီးက မျက်ရည်ဝိုင်းကာ ကျေးဇူးတင်။ ငြီ။ အဟိ။ ထို့ကြောင့် ထွက်လုဆဲဆဲကားကို

"ခဏလေး ခဏလေး ဆင်းမလို့"

ဟုအော်ရင်း ပိုက်ဆံအိတ်ကိုကိုင်ရင်း သူမကိုမီရန် ပြေးအဆင်း

"ခါးပိုက်နှိုက်၊ ခါးပိုက်နှိုက်ဗျို့၊ လုပ်ကြပါဦး"

ကားပေါ်မှအော်သံ။ သူမကြားတော့။ ဇောကပ်နေပြီမို့ ပိုက်ဆံအိတ်ကို ဆွဲရင်း ချစ်သူနောက် ကမန်းကတန်း ပြေးလိုက်မိသည်။ သူ၏အနောက်တွင်ကား ရုတ်ရုတ်သဲသဲဖြင့်

"ခါးပိုက်နှိုက်၊ ခါးပိုက်နှိုက်ဗျို့၊ လုပ်ကြပါဦး"

"ဘယ်မှာလဲ ခါးပိုက်နှိုက်၊ ဘယ်မှာလဲ ခါးပိုက်နှိုက်"

"ဟိုမှာ ဟိုမှာ ပိုက်ဆံအိတ်ယူပြီးပြေးပြီ"

"ဟေ့ ဟေ့ လိုက်ကြဟေ့ လိုက်ကြ"

အနောက်မှာ ရုတ်ရုတ်သဲသဲ။

သူသတိမထားမိ။ ချစ်သူကိုမီးရန်သာ ခြေလှမ်းကို အရှိန်မြှင့်၍

သူနောက် ခပ်လှမ်းလှမ်းမှာ တုတ်တပြက်ဓားတပြက်နှင့် လူအုပ်ကြီး။

"ခါးပိုက်နှိုက်ပါဗျို့"

× × ×



"ဒီမှာ ဒီမှာ"

သူ့အော်သံကြောင့် ကားလမ်းတစ်ဖက် ဖြတ်ကူး ရန်ပြင်နေသော ချစ်သူခြေလှမ်း ရပ်တန့်သွား၏။

ချွေးသံတရွှဲရွှဲနှင့် သူ အနားကို ကပ်သွားလိုက်သည်။ အမောတကောပြေးလာရ၍ သူ စကားပင် မပြော နိုင်သေး။

"ဟူး"

အမောဆို့လုဆိုခင် ဖြစ်နေသောသူ့ကို သူမက ကြောင်ငေးကြည့်သည်။ သူက အစွမ်းကုန်ပြုံးရင်း

"ပိုက်ဆံအိတ်၊ ပိုက်ဆံအိတ်ကျကျန်ခဲ့တယ် မဟုတ်လား၊ ဟူး မောလိုက်တာ"

မောနေသည့်ကြားက သူ ပိုက်ဆံအိတ်ကို ထောင်ပြလိုက်သည်။ သူမက သူ့ကို ကြောင်ငေးကြည့်နေသေး၏။ နောက်မှ သတိရပြီး ခေါင်းကိုယမ်းကာ

"ဟင့်အင်း မကျန်ခဲ့ပါဘူး"

"ဟင်"

အံ့အားသင့်သွားသေး၏။ နောက်မှ သူမရှက်နေမှန်း သတိထားမိသေးသည်။ ထို့ကြောင့် သူက ပြုံးရင်း

"မညာနဲ့၊ ညာရင် ငရဲကြီးတတ်တယ်"

သူမ သူ့စလင်းဘတ်ကို မသက်သာသလို ပြန်ဖွေရှာပြီး

"မကျန်ခဲ့ပါဘူး၊ ဒီမှာပါပါတယ်"

စလင်းဘတ်ထဲမှ ပိုက်ဆံအိတ်တစ်ခု ထုတ်ပြသည်။

"ဟာ"

ပိုက်ဆံအိတ် နောက်တစ်ခုမြင်တော့ သူအံ့အားသင့်သွားသည်။ နောက်မှ သတိရကာ သူကရယ်ရင်း

"ဟင် ပိုက်ဆံအိတ်က နှစ်အိတ်တောင် ကိုင်တာလား၊ သိပ်နောက်တာပဲ၊ ဟဲဟဲ၊ ကားပေါ်မှာ ကျကျန်ခဲ့တာလေ၊ ဒီတစ်အိတ်က"

သူမ မျက်မှောင်ကြုတ်ပြီး

"မကျခဲ့ပါဘူး၊ ဒီမှာပါတယ်လေ"

ထိုတော့မှ သူလဲ မျက်လုံးပြူးသွားပြီး

"ဟင် ဒါ ဒါဆို ဒီပိုက်ဆံအိတ်က"

သူမက လက်ညှိုးပြန်ထိုးရင်း

"သူယူလာတာလေ"

"ဟင် ဒါ ဒါဆို"



"ပိုက်ဆံအိတ်ဖွင့်ကြည့်ပါဦး၊ မှတ်ပုံတွင်တွေ ပါရင်ပါမှာပေါ့"

တမန်းကတန်း ပိုက်ဆံအိတ်ဖွင့်ကြည့်တော့

"ဟာ"

အိတ်အုံတွင်းမှာပါသော မှတ်ပုံတင်က သူ့မှတ်ပုံတင်မဟုတ်။ ပိုက်ဆံရေကြည့်တော့ အားလုံးပေါင်းလေးထောင်။

"ဟင် ဒါ ဒါဆို"

သူတို့ပိုက်ဆံအိတ်ဖွင့်ပြီး ခေါင်းချင်းဆိုင်နေစဉ်မှာပင်

"ဟင် ဟိုမှာတွေ့ပြီ တွေ့ပြီ"

"ဟေ့ ခါးပိုက်နှိုက်တွေ့ပြီဟေ့"

အော်သံနှင့်အတူ ပြေးလာသောလူတစ်စု။ သူတို့ကြောင်ငေး ကြည့်နေစဉ်မှာပင် သူတို့ကို ဝိုင်းရံလိုက်သည်။

"မလွှတ်စေနဲ့ဟေ့"

"အောင်မာ မိန်းကလေးလဲ ပါတယ်ဟ"

"သူတို့က ဝေစုတောင်ခွဲနေပြီ"

ဘာဖြစ်မှန်းမသိဘဲ သူတို့လဲ ပိုက်ဆံအိတ်ကြီးဖွင့်ပြီး ငေး ကြည့်နေမိကြသည်။

"ဟေ့ မလွှတ်စေနဲ့နော်"

"ဒီကောင်တွေ ကားပေါ်မှာ သောင်းကျန်းနေတာကြာပြီ"

စသည်ဖြင့် ညာသံပေးနေ၍ သူလဲ အံ့အားသင့်ပြီး

"ဘာဖြစ်နေကြတာလဲဗျာ"

သူ့အမေးကို တစ်ယောက်က

"အောင်မာ ခါးပိုက်နှိုက်ကများ နှိုက်ထုပ် နှိုက်ထည် အဲလေ ခိုးထုပ် ခိုးထည်နဲ့မိနေတာကိုများ အတည်ပေါက်နဲ့ ညာနေတာလား"

"ဟုတ်ပါ့။ မင်းလက်ထဲက ပိုက်ဆံအိတ်က မင်းကားပေါ်က နှိုက်လာတာမဟုတ်လား"

"ဟင်"

ထိုတော့မှ သူတို့လဲ သဘောပေါက်သည်။ ပိုက်ဆံအိတ်က သူ့မပိုက်ဆံအိတ်မဟုတ်။ ကားပေါ်မှာကျနေတာကို သူက ဇောကပ်ပြီး ပြေးလိုက်ပေးမိတာ။ ထို့ကြောင့် ပျာပျာသလဲဖြင့်

"ဟာ နေပါဦး၊ ရှင်းပြပါရစေဦး၊ ဒီပိုက်ဆံအိတ်က"

သူ့စကားမဆုံးခင်

"အာ ရှင်းနေကြာတယ်ကွာ၊ တို့အရင် ရှင်းလိုက်ရအောင်"

"ကောင်းတယ်၊ တစ်ခါတည်းရှင်းလိုက်တာ ကောင်းတယ်"

လူအများ ရှေ့တိုးလာစဉ်

"ရှီး"

"ဘာဖြစ်တာလဲဟေ့"

ခရာမှုတ်သံနှင့်အတူ ကြားရသောအသံများ။ ကြည့်လိုက်တော့ ပြည်သူ့ရဲနှင့် လူတချို့။

သူတို့ကို ဝိုင်းထားသောသူများက

"ဒီမှာလေ ခါးပိုက်နှိုက်စုံတွဲ၊ ခိုးထုပ်ခိုးထည်နဲ့မိလို့ အဲဒါ

စုံတွဲဟူသောစကားကို
သာယာချင်သေး၏။
သို့သော်
ခါးပိုက်နှိုက်ကြီး
ရောက်ပါနေတော့
နားထောင်မကောင်း။
သူမ ကြည့်တော့လဲ
မျက်နှာအပျက်ပျက်
အယွင်းယွင်း။



ဝိုင်းဖွဲ့လို့"

စုံတွဲဟူသောစကားကို သာယာချင်သေး၏။ သို့သော် ခါး ဝိုတ်နှိုက်ကြီး ရှေ့ကပါနေတော့ နားထောင်မကောင်း။ သူမ,ကြည့် တော့လဲ မျက်နှာအပျက်ပျက်အယွင်းယွင်း။ မကြုံဘူးသောအခြေ အနေမို့ ဖြေရှင်းရခက်နေပုံ။ ထို့ကြောင့် သူကသာ

"မဟုတ် မဟုတ်ပါဘူးဗျာ၊ ကားပေါ် ပိုက်ဆံအိတ်ကျလို့ အဲဒါ မြိုင် မြိုင့်ပိုက်ဆံအိတ်မှတ်လို့"

သူ့စကားမဆုံးခင် အဒေါ်ကြီးတစ်ယောက်က

"ကျွန်မပိုက်ဆံအိတ်ပါတော်၊ ကားပေါ်ကျရင်လဲကောက်ပြီး ပြေးဆင်းစရာမလိုဘူး၊ အခုဟာက တမင်သက်သက်"

"ဟုတ်တယ်၊ ဒီကောင်ကားပေါ်တက်ကတည်းက ဟိုလူ့ခါး နှိုက်၊ ဒီလူ့ခါးနှိုက် ကျွန်တော်တွေ့တယ်"

လိုင်းကားမစီးတတ်၍ ယိုင်ထိုးနေခြင်းက အမှုကြီးတစ်မျိုး။ သူလဲ ဘယ်လိုရှင်းပြရမှန်းမသိခင် တာဝန်ရှိသူများက

"ကဲကဲ ဘာမှပြောမနေကြနဲ့တော့၊ ဒါဟာ တရားဥပဒေနဲ့ ပတ်သက်တာမို့ ရဲစခန်းရောက်မှရှင်းကြ"

"ဗျာ"

"ရှင်"

ဘာမှမပြောနိုင်တော့။ အချစ်အတွက် တစ်ချက်ကလေး ဆတ်ဆလူးထတာနဲ့ ရဲစခန်းရောက်ပြီ။

× × ×

# အမှတ် ၂၃

အပြင်မှာ ဆူညံခဲ့သလောက် စခန်းထဲ၌တော့ တစ်ယောက်မှ အသံမထွက်ရဲကြ။

နံရံထက်မှ ပန်ကာလည်သံပင် တဂျစ်ဂျစ်ကြား နေရသည်။

စခန်းမှူးကြီးက ပိုက်ဆံအိတ်ပြန်ချပြီး

"ပိုက်ဆံအိတ်က ဘယ်သူ့အိတ်လဲ"

မဲမဲဝဝ အဒေါ်ကြီးတစ်ယောက်က ရှေ့ထွက်လာပြီး

"ကျွန်မပိုက်ဆံအိတ်ပါရှင်"

စခန်းမှူးကြီးက တစ်ချက်ဝေ့ကြည့်ကာ

"ဖြစ်စဉ်ကို ပြောပါဦး"

"ကျွန်မ လိုင်းကားစီးလာတုန်း ဒီသူငယ်က နောက်နားကနေ ကပ်လာတယ်၊ ကားလဲ ပြုန်းဆိုရပ်ရော သူက

ကျွန်မချိုင်းကြား ညှပ်ထားတဲ့ ပိုက်ဆံအိတ်ကို စွတ်ခနဲဆွဲပြီး ကားပေါ် တဆင်းပြေးတာ"

"မဟုတ် မဟုတ်"

သူဇော့ဒကာတတ်မည် ပြင်တုန်းမှာပင် စခန်းမှူးကြီးက လက်တာပြသည်။ သူလဲ ဘာမှမပြောရဲတော့။

"နောက် ဘယ်လိုမိလဲ"

"ကျွန်မတို့လဲ အနောက်ကပြေးလိုက်ရင်း သူနဲ့သူ့ပါတနာ၊ ဒီကောင်မလေးနဲ့ လမ်းမမှာ ဝေစုခွဲနေတုန်းမိတာပါ။ အားလုံးမျက်မြင် သက်သေရှိပါတယ်"

အားလုံးက ခေါင်းညိတ်ကြသည်။ စခန်းမှူးက သူ့ဖက်လှည့်ပြီး

"မင်းနာမည်"

"အောင်သူရိန်ပါ"

မြိုင်လှည့်ကြည့်သည်။ ယခုမှ သူလဲ နာမည်သိပုံ။

"မင်းကရော ဘာပြောချင်လဲ"

"ဒီလိုပါခင်ဗျ"

သူ ကားပေါ်မှ အဖြစ်အပျက်များကို ပြောပြလိုက်သည်။ စခန်းမှူးက ခေါင်းကိုညိတ်ရင်း

"ဒါဆို ညီလေးက မှားယူပေးမိတာပေါ့"

"ဟုတ် ဟုတ်ပါတယ်ဗျာ"

စခန်းမှူးက မြိုင်ဖက်လှည့်ပြီး

"ညီမလေးရော သူနဲ့သိလား"

သူမ ဝေ့ကြည့်ရင်း

"ဟုတ် မျက်မှန်းတမ်းမိရုံပါ"

"ညီမလေးကို ဒီပိုက်ဆံအိတ် လာပြေးပေးတယ်ဆိုတာ ဟုတ်

သလား"

"ဟုတ် ဟုတ်ပါတယ်ရှင့်၊ သူက ကျွန်မပိုက်ဆံအိတ်မှတ်ပြီး လိုက်ပေးတာပါ"

စခန်းမှူးကြီး သက်ပြင်း ချသည်။

"ညီမလေးကို လိုက်ပေးတာ ဒီပိုက်ဆံအိတ်ပဲနော်"

"ဟုတ်ပါတယ်ရှင်"

"ဟိုအဒေါ်ကြီးပျောက် တာလဲ ဒီပိုက်ဆံအိတ်ပဲလား"

"အစစ်ပေါ့ရှင်၊ ဒါပါပဲ"

"ဒါဆို အဒေါ်ကြီးပိုက်ဆံ အိတ်ထဲမှာ ဘာတွေပါလဲ"

"ဘာတွေပါသလဲဆို တော့ အင်း"

အဒေါ်ကြီးက သူ့မေးစေ့သူ လက်ညှိုးနှင့်ထောက်၊ ပန်ကာကိုမော့ကြည့်ပြီး စဉ်းစားသည်။ ပြီးမှ

"မှတ်ပုံတင်ကတစ်ခု"

စခန်းမှူးကြီးက ပိုက်ဆံအိတ်ဖွင့်ပြီးစစ်သည်။

"စိန်လက်စွပ်က သုံးကွင်း"

"ဗျာ"

အောင်သူရိန် ခုန်တက်သွား၏။ စခန်းမှူးက မျက်မှောင်ကြုတ်သည်။

"ငွေသားက သိန်းလေးဆယ်"

"ဟမ်"

အားလုံးပေါင်းမှ ငွေလေးထောင့်နှစ်ရာလားပါတာကို ယခုတော့ သိန်းလေးဆယ်ဖြစ်ပြီ။ စခန်းမှူးက မျက်မှောင်ကြုတ်သည်။

"ဒီမှာက လေးထောင်ကျော်ပဲ ရှိပါလား၊ ဘယ်လိုဖြစ်တာလဲ၊ ဒီက ညီမလေးကို ပိုက်ဆံအိတ်လာပြတုန်းက ဘာတွေပါသလဲ"

မြိုင် မျက်မှောင်ကြုတ်ရင်း

"အန့်တီကြီးပြောသလောက် မပါဘူးထင်တယ်၊ ကျွန်မလဲ သတိမထားမိဘူး"

စခန်းမှူးက မျက်မှောင်ကြုတ်စဉ်းစားသည်။

"ဒါဖြင့် ညီမလေးပိုက်ဆံအိတ်နဲ့ မင်းပိုက်ဆံအိတ်ကိုပြ"

မြိုင်က မရဲ့မရဲနှင့် သူ့ပိုက်ဆံအိတ် ထုတ်ပေးသည်။ သူလဲ ပိုက်ဆံအိတ်ထုတ်ပေးလိုက်သည်။

> တစ်သောင်းတန်မှာ ဘာရုပ်ရှိမှန်း မသိဘဲနဲ့ ဘယ့်နှယ် ပိုက်ဆံအိတ်ထဲ သိန်းလေးဆယ် ထည့်လာမှာလဲ

မြိုင်၏ ပိုက်ဆံအိတ်တွင် ဘာမှသိပ်မပါ။ သူ့ပိုက်ဆံအိတ်မှာသာ ငွေကအပြည့်။ စခန်းမှူးက အိတ်ကိုဖွင့်ကြည့်ပြီး

"ဒီပိုက်ဆံတွေက ဘယ်က ရတာလဲ"

"အိမ်ကခိုးလာတာ"

မိဘဆီက ခိုးလာတာမို့ နှုတ်က လွှတ်ခနဲ ထွက်သည်။ နောက်မှ သတိရပြီး

"ဟုတ်ဘူး၊ အဲ အိမ်ကယူလာတာပေါ့ဗျ"

"အဲ အဲဒါ ကျွန်မပိုက်ဆံတွေပဲ၊ ကျွန်မပိုက်ဆံတွေ၊ သူ့အိမ်မှာ ကျွန်မပိုက်ဆံကျန်ဦးမယ်"

အဒေါ်ကြီးက ပြောင်ဝင်းသောမျက်ဝန်းဖြင့် ပြန်ပြောသည်။ ဒါကို စခန်းမှူးကြီးက

"အဒေါ့်ပိုက်ဆံက ဘယ်လောက်"

"သိန်း သိန်းလေးဆယ်ကျော်"

"စိန်လက်စွပ်က"

"သုံး ဂလု သုံးကွင်း"

"ကာလတန်ဖိုး"

"သိန်း သိန်းတစ်ထောင်နီးပါး အဲ ကျော်ချင်ကျော်မှာမှာ"

အဒေါ်ကြီးက လောဘဖြင့် စကားပင်မှားချင်၏။ စခန်းမှူးက အဒေါ်ကြီးမျက်နှာခေ့ကြည့်ပြီး

"ဒီအိတ်ထဲ ပိုက်ဆံသိန်းလေးဆယ် ဘယ်လိုထည့်မလဲ၊ ပြောပြ"

"ဟင်"

အဒေါ်ကြီးကြောင်သွားသည်။ အတန်ကြာမှ ခေါင်းကုတ်ပြီး

"ဟို ဟိုလေ တစ်သောင်းတန် တစ်သောင်းတန်"

"တစ်သောင်းတန်က ဘာရုပ်လဲ"

"ဟမ်"

စခန်းမှူးအမေးကြောင့် အဒေါ်ကြီးမျက်လုံးတွေ လည်သွားသည်။ နောက် ခေါင်းကုတ်လိုက်ဖင်ကုတ်လိုက်နှင့်

"ဟိုလေ ဆင်ရုပ်လား ကျားရုပ်လား သင်္ဘောရုပ်လား"

စခန်းမှူးက ပြုံးလိုက် သည်။

"တစ်သောင်းတန်မှာ ဘာရုပ်ရှိမှန်း မသိဘဲနဲ့ ဘယ့်နှယ် ပိုက်ဆံအိတ်ထဲ သိန်းလေးဆယ် ထည့်လာမှာလဲ"

အဒေါ်ကြီးက မျက်နှာအပျက်ပျက်အယွင်းယွင်း။ သို့သော် မတော်လောဘက မလျှော့ချင်သေး။

"တို့လေ ပိုက်ဆံက သိန်းလေးဆယ်မပြည့်ပေမယ့် စိန်လက်စွပ်သုံးကွင်းတတော့"

"အဒေါ်ကြီး ဘာလုပ်လဲ"

"အကြော်ရောင်းတယ်"

"ယောက်ျားက"

"ဆိုက္ကား ဆိုက္ကားနင်းတယ်"

"အကြော်ရောင်း ဆိုက္ကားနင်းတဲ့သူက စိန်လက်စွပ်သုံးကွင်း ဘယ်လိုရတာလဲ"

"အဲ အဲဒါကလေ"

"ခိုးလာတာလား"

"ဟင် ဟမ် အဲလိုမဟုတ်"

အဒေါ်ကြီးက ဘာဖြေရမှန်းမသိ။ စခန်းမှူးက သူ့ကိုကြည့်ပြီး

"ရော့ ဒီမှာ ကိုယ့်အိတ်ကိုကိုယ် အသေအချာပြန်စစ်၊ ပြည့်စုံတယ်ဆို ယူသွား၊ ဒါမှမဟုတ်ရင် ခင်ဗျားကို လိမ်လည်မှုနဲ့ တရားစွဲရလိမ့်မယ်"

"ဟုတ် ဟုတ်"

အဒေါ်ကြီးက ပိုက်ဆံအိတ်ကို ကတုန်ကယင်နှင့်ပြန်ကောက်ယူပြီး အိတ်ကိုဖွင့်ကြည့်သည်။ ပြီးမှ ရှေ့ရွှတ်သလိုဖြင့်

"အင်း စိန်လက်စွပ်ကသုံးကွင်း၊ ပိုက်ဆံက သိန်းလေးဆယ်ကျော်၊ မှတ်ပုံတင်တစ်ခုပြည့်တယ်၊ ပြည့်တယ်၊ အင်း အစုံပြန်ရလို့ ကံကောင်း"

ဆိုကာ

"သွားမယ်နော်၊ ခွင့်ပြုပါဦး"

ဆိုကာ သုတ်ခနဲထလစ်သွားလေတော့သည်။ သူ့နောက်က

ပွဲကြည့်ပရိသတ်များကလဲ သူနည်းတူစွာ။

အားလုံးလူရှင်းမှ အောင်သူရိန်ကထပြီး

"ကျွန် ကျွန်တော်တို့ရော သွားလို့ရပြီလားဟင်"

စခန်းမှူးက လက်ကာပြရင်း

"နေဦး"

"ဟုတ် ဟုတ်ကဲ့"

အောင်သူရိန် ပြန်ထိုင်လိုက်သည်။ မြိုင်ကတော့ မျက်နှာအပျက်ပျက်အယွင်းယွင်းနှင့် မလှုပ်မယှက်။ စခန်းမှူးက သက်ပြင်းချရင်း

"ဒါဟာ မတော်တဆအမှားဆိုပေမယ့် မမှားသင့်တဲ့အမှားပါပဲ"

အောင်သူရိန်မငြင်းနိုင်။

"အကယ်၍များ ဒီပိုက်ဆံအိတ်ယူလာတာ ဘယ်သူမှမသိဘူးဆို ဘာဖြစ်မလဲ"

ဘာမှမပြောနိုင်။

"ညီလေးတို့ ညီမလေးတို့ လူကောင်းတွေ၊ ကျောင်းသူကျောင်းသားတွေဆိုတာ သိပါတယ်၊ ဒါပေမယ့် ရာနှုန်းပြည့်ယုံကြည်လို့ မရပါဘူး"

နှစ်ယောက်လုံး ဘာသံမှမထွက်။

"သံသယဖြစ်စရာလုပ်ရပ်မို့ ညီလေးတို့ ညီမလေးတို့ မိဘများကိုခေါ်ပါ"

"ဗျာ"

"ရှင်"

"မိဘတွေနဲ့ ညီလေးတို့ကို ပြန်အပ်ပေးပါ့မယ်၊ ပြီးရင်ပြီးစိတ်ချရအောင် ညီလေးနဲ့ ညီမလေးတို့ တစ်ပတ်တစ်ကြိမ် လာကြ

နေ့တိုင်း ရဲစခန်းလာပြီး ခံဝန်လက်မှတ်လာထိုးရမယ်၊ တစ်လတိတိပေါ့”

“ဟင် တကယ်လား”

အောင်သူရိန်၏အသံ။ စခန်းမှူးကြီးက ပြုံးပြီး

“ဘာလဲ များလို့လား”

အောင်သူရိန်က ဝမ်းသာအားရဖြင့်

“ဟာ ဘယ်များမလဲ စခန်းမှူးကြီးရယ်၊ အမှန် တစ်ရက်တစ်ကြိမ်နဲ့ တစ်နှစ်လောက် လက်မှတ်ထိုးခိုင်းသင့်တယ်”

သူ့စကားကြောင့် စခန်းမှူးကြီး မျက်လုံးပြူးသွားသည်။ မြိုင်က အံ့သြတကြီး သူ့ကိုပြန်ကြည့်၏။

“ဟင် ဘာဖြစ်လို့လဲ”

“ဟာ စခန်းမှူးကြီး ကျန်တဲ့နေရာပါနေပ်ပြီး ဒီကိစ္စကျ ဒုံးဝေးလိုက်တာ၊ ဒီလို နေ့စဉ်ခံဝန်အတူလာထိုးမှ နေ့စဉ် အဟီ”

လက်သီးနှစ်ချောင်း ပူးပြလိုက်သည်။ ထိုတော့မှ စခန်းမှူးကြီး သဘောပေါက်သွားပြီး

လုပ်ပါ
စခန်းမှူးကြီးရယ်၊
ခံဝန်ကို
နေ့စဉ်
တစ်နှစ်လောက်
လုပ်ထည့်လိုက်စမ်းပါ

"ဩော်"

"လုပ်ပါ စခန်းမှူးကြီးရယ်၊ ခံဝန်ကို နေ့စဉ် တစ်နှစ်လောက် လုပ်ထည့်လိုက်စမ်းပါ"

သူ့စကားကို စခန်းမှူးက ခေါင်းခါပြီး

"ဟင် ဟင် မ မဖြစ်လို့ပါကွာ"

"ဒါဖြင့် တရားရုံးလွှဲလိုက်ပါလား"

"အာ သူများက အမှုအခင်းကင်းကင်း နေချင်ကြတာ၊ မင်း တစ်ယောက်တည်း အမှုဖြစ်ချင်နေရတယ်လို့"

"နှစ်ယောက်အတူ အချုပ်ထဲ ဖမ်းချုပ်ထားပါလားဟင်"

"အာ တော်ကွာ၊ တော် မိဘတွေဆီ ဖုန်းဆက်"

"စခန်းမှူး သိပ်ရက်စက်တာပဲ၊ သွား လူဆိုး"

"ဟော့ကောင်၊ လူဆိုးမဟုတ်ဘူး ရဲကွ ရဲ"

"အဲဒါပြောတာပေါ့၊ ရဲလူဆိုး သွား ခေါ်ဘူး"

ဩော် သူ့ခမျာ တဏှာဇောနှင့် အမှုသေးနေတာကို အားမရ နိုင်ဖြစ်နေသေး၏။

"ခေါ်လဲနေကွာ၊ မိဘတွေဆီသာ ဖုန်းဆက်"

နှစ်ယောက်သား ဖုန်းဆက်ကြရသည်။

သိပ်မကြာပါ။ ကားအကောင်းစားကြီးများ တရှန်းရှန်းနှင့် ဒေါင်သူရိန်တို့အဖေ ရောက်လာသည်။ ရှေ့ဆင့်နောက်ဆင့်ဆိုသလို မြိုင်ရဲ့အဘွား ဝိုးချဲလ်ကြီးနှင့် ရောက်လာပြန်၏။

"ဘာ ဘာဖြစ်တာလဲ မြေးလေးရယ်၊ မထိတ်သာမလန့်သာ နဲ့"

"ကျွန်တော့်သား ဒီကောင် ဘာဖြစ်ပြန်တာလဲဟင် စခန်းမှူး ကြီး"

အားလုံးလူစုံတော့ စခန်းမှူးကြီးက ရှင်းပြသည်။

"ဒီလိုဗျ"

သူရှင်းပြလို့ ဆုံးသည်နှင့် မြိုင်ရဲ့အဘွားက

"အောင်မလေး ဖြစ်မှဖြစ်ရလေ၊ ဒီကောင် ဒီကောင်လေးပဲ မတုတ်လား၊ မြေးနဲ့အဘွား လမ်းလျှောက်သွားရင် လိုက်ချောင်းနေတာ"

သူ့ကိုမှတ်မိသဖြင့် အောင်သူရိန် ဝမ်းသာသွားပြီး

"ဟုတ်ကဲ့ပါ၊ ကျွန်တော်ပါပဲဗျ၊ အဘွားကမှတ်မိသား အဟီး"

အောင်သူရိန် မျက်နှာရှုံ့ကြီးမြင်တော့ အဘွားမျက်နှာကျော တင်းသွားပြီး

"အောင်မလေး မှတ်မိပ့ါ၊ တစ်သက်မှာတစ်ခါ မြင်ရခဲ့တဲ့ မျက်နှာရှုံ့မျိုး၊ ဟဲ့ အဲဒါ နင့်သားလား"

အောင်သူရိန်၏ဖခင် ဦးလွန်းတင်အား လက်ညှိုးထိုးမေးသည်။ ဦးလွန်းတင်ကလဲ မျက်နှာငယ်လေးဖြင့်

"ဟုတ်ကဲ့ ကျွန်တော့်သားပါခင်ဗျ"

"အေး နင့်သားကို ငါ့မြေးနဲ့ ကိုက်တစ်ရာပတ်ဝန်းကျင်ထိ အနားမကပ်စေနဲ့ ကြားလား"

"ဟုတ် ကျွန်တော်ဆုံးမထားလိုက်မယ်"

"ဒါဆိုပြီးရော လာ ငါ့မြေးသွားမယ်"

ဆိုကာ မြိုင်ကိုလိုက်ဆွဲပြီး ပြန်ထွက်တော့

"မြိုင်"

"ရှင်"

အောင်သူရိန်ခေါ်သံကို ဟိုကလဲယောင်ပြီး ပြန်ထူးသည်။

"သောကြာနေ့ ဒီအချုပ်မှာပဲ အဲလေ ဒီမှာပဲဆုံမယ်နော်"

ထိုစကားကိုကြားတော့ သူ့အဖေက သူ့ကို နားရင်းအုပ်ပြီး

"ဩော် ရဲစခန်းလာရမှာ အရေးထဲပျော်နေသေး၊ စိတ်ချရ

ဒေါင် အခုကတည်းက အချုပ်ကစောင့်ပါလား”

“သားကစောင့်ချင်တာ၊ ရဲသားကြီးတွေက ခွင့်မပြုလို့”

“တယ်လေ ရွှဲပြောလို့ပြောမှန်းမသိ၊ ငါနားရှင်းအုပ်လိုက်ရ”

အရေးထဲ အချစ်အတွက် အချုပ်ကျချင်သူက ရှိသေး။ ဤသို့ဖြင့်

× × ×

သစ်ရွက်ကလေးများ လှုပ်ရှားသံ၊ လေပြည်လေညင်းက ပွတ်သပ်ကျီစယ်သံတို့က မြေသင်းရနံ့လေး ပါလာသော အေးမြမှုတို့ကို အပြာရောင်ကောင်းကင်အောက်သို့ လွင့်ပျံ့စေသည်။

ရုတ်တရက်တိုက်ခတ်လာသော လေပြင်း တစ်ချက်က ကြွေကျပြီးသော သစ်ရွက်ခြောက်တို့ကို ဝေ့ခနဲ လွင့်ပျံစေသလို အဖော်ကွဲလာသော စာငှက်ကလေးတစ်ကောင်ကလဲ သူမလာရာအတိုင်း လှမ်းလာပြီဖြစ်ကြောင်း ကောင်းချီးပေး၏။

မှန်ပေသည်။ ထာဝရအတွက် ပြီးပြည့်စုံစေသော အလှတရား က သစ်ပင်ရိပ်များကြား ဘွားခနဲပေါ်လာပေလေပြီ။

ရင်ခုန်သံတထိတ်ထိတ်က ဘယ်လိုမှ ကြိတ်ဖြေလို့မရ။ စစ်မှန်သောအပြုံးတစ်ခုကလဲ နားရွက်နား သပ်လျှိုဆွဲထားသလို အပြုံး လိုက်ကြီး တွန့်တက်နေ၏။ အရယ်လွန်လျှင် လှခဲသည်ဟူသော စကား ရှိသော်ငြား သူမကိုတွေ့က နဂိုရ်အရယ်လွန်နေသောသူ၏ ပါးချောင် ကြား၊ ဘဲဥလေးလုံးစီလွယ်ထားသလို သွားတန်းသည်လဲ မပေါ်သင့် ပါဘဲ ပေါ်နေရလေတော့သည်။ ထိုပြတတ်နေသော ပါးချောင်နှစ်ဖက် ကို ပြန်ဆွဲဆက်လို့လဲမရ။ ဂယနဏာမသိပါဘဲ ပါးစပ်ပြဲ၍ ပေါ် လာရသော သွားတန်းမှာ အလိုလိုလေတိုးဒဏ်ကြောင့် တုတ်ကွေး ဖျားနာ ရောဂါရပြီး သွားတစ်ကွက်တည်း ကွယ်လွန်အနိစ္စရောက်ရ မည်ကို စိုးရိမ်ကြရရှာလေတော့သည်။ သို့သော် ကိစ္စမရှိ။ ယခုလို အချိန်မျိုး သွားတစ်ကွက်လေဖြတ်မည်ဆိုလဲ အဖြတ်ခံနိုင်သည်။

သူမလာလေပြီ။

သစ်ရိပ်တန်းအောက် သူမရဲ့ခြေသည်းနီနီ မြင်ရကတည်း က ရင်ခုန်သံအလုံးကြီးက ဗိုက်အောင့်အောင့်လိုက်၊ နားထင်မြန်မြန်ဆောင့် လိုက်၊ ဘေးဘယ်ညာ စေ့ခုန်လိုက်နှင့် လူကိုယ်တိုင်က မြန်မာ့မီးရထား စီးသွားနေရသလို ဖြစ်နေမိသည်။

ဖျတ်ခနဲ ခြေလှမ်းက သူ့ရှေ့ရွှေ့လာပြီ။

"မြိုင်"

ခေါ်သံကြောင့် သူမငေ့ကြည့်သည်။

"ဪ"

မထူးဆန်းသော အာမေဋိတ်သံ။

"တစ်ယောက်တည်းလားဟင်"

မေးပြီးမှ ဘေးဘီအပေါ်အောက် ပြန်ကြည့်ဖြစ်သေးသည်။

ဟိုတစ်ခါလို ဗိုးချဲလ်ကြီးပါလာမှဖြင့်။

သူမ ဘာမှအဖြေမပေးဘဲ ခြေလှမ်းကိုသာ မှန်အောင်လျှောက်သည်။ သူလဲ ဘာဆက်ပြောရမှန်း မသိ။ နောက်မှ သတိရပြီး

"ဪ-သောကြာနေ့ဆို ရဲစခန်းမှာ ခံဝန်အတူထိုးရမှာ မေ့မှာစိုးလို့ လာသတိပေးတာ"

သူမခြေလှမ်း တန့်ခနဲ။ နောက် မျက်မှောင်ကြုတ်ရင်း

"ဒီနေ့မှ တနင်္လာပဲ ရှိသေးတယ်မဟုတ်လား"

သူမစကားသံ ကြားတော့ အလိုလိုနေရင်း ပျော်သွားသည်။ ဒီလောက်စကားပြန်ပြောနေရင် အခြေအနေက အဆိုးကြီးမဟုတ်တော့ဘဲကို။ ထို့ကြောင့်

"အဟဲ ဟုတ်တော့ဟုတ်ပါတယ်၊ အဲ ဒါပေမယ့် မေ့မှာစိုးလို့"

သူမ မျက်စောင်းထိုး ကြည့်သည်။

"အဟီး"

သူက ရှက်ကိုးရှက်ကန်းနှင့် ပြုံးပြီးသားပါးစပ်ကို ထပ်ဖြဲပြလိုက်သည်။ စကားကလဲ လိမ့်ပတ်လည်အောင် မပြောတတ်သူမို့ ဘာဆက်ပြောရမှန်းမသိ။ လူစလင်းဘတ်(ခ်)လို ဘေးတိုက်ကြီး လိုက်ပါနေရသည်။

အတန်ကြာမှ

"အခု ဘယ်သွားမလို့လဲဟင်"

သူမက ဝေ့ကြည့်ရင်း

"ပလာဇာကို"

"ဪ"

အာရုံကြော၏ အလိုအရ အလိုလိုနေရင်း ခေါင်းညိတ်မိသည်။

"အဘွားအတွက် ဆေးသွားဝယ်မလို့"

သူမကသာ ထပ်ဖြည့်ပြောသည်။ သူကသာ ဘေးကကပ်ပါရင်း

"လိုက်ခဲ့ပေးမယ်လေ"

သူမ မျက်စောင်းထိုးကြည့်ပြန်သည်။ သူလဲ ပြန်ချမရသောသွားကြီးဖြဲပြီး

"အဟဲ သွားမယ့်နေရာချင်းလဲ တူနေတော့ အဖော်ရအောင်လို့"

သူမ ဘာမှပြန်မပြော။

အဆင်ပြေသည့်သဘော။

နှစ်ဦးသဘောမတူပါဘဲ လမ်းအတူလျှောက်မိသည်။

သိပ်မဝေးသော ပလာဇာကို လှမ်းမြင်ရသည်။

"ဘာဝယ်မလို့လဲ"

သူမ၏အမေး။ သူလဲ နဂိုပြုံးကို ထပ်ပြုံးကာ

"ဘာမှမဝယ်ပါဘူး၊ ဟိုလေ အမှုတွဲတွေဆိုတော့ သက်သေလိုက်ပေးတာ၊ အဲလေ ဘာတွေပြောမိမှန်းမသိဘူး ရှက်လိုက်တာ၊ ဟီးဟီး"

ကိုယ့်ဘာသာကိုယ် ဘာပြောမှန်းမသိဘဲ ရှက်နေရသေး၏။ ပြောစရာစကားမရှိတော့လဲ ပါးချောင်ထဲက

"ဟီး ကျွန်တော်ရှက်နေတာ မြိုင်မြင်သွားလားမသိဘူး ရှက်လိုက်တာ ခစ်ခစ်"

ကိုယ့်ဘာသာကိုယ်ရှက်တာ သူများမေးရသေး။ နောက်မှ သတိရပြီး

"မြိုင်ကရော ဘာဝယ်မှာလဲ၊ အဝတ်အစားတွေပဲလား"

သူမမျက်မှောင်ကြုတ်ရင်း

“ဆေးဝယ်မယ်လို့ ပြောခဲ့တယ်လေ၊ မှတ်လဲမှတ်မထားဘဲနဲ့”

သူမစကားကြောင့် သူလဲ ပို့ရှက်သွားပြီး

“ဪ် ဟုတ်သားပဲ၊ ခုန ပြောတာကို ရှက်နေတာနဲ့ပဲ သတိမေ့သွားတာ ခစ်ခစ်၊ ရှက်လိုက်တာ ဟီး၊ ကျွန်တော်ရှက်နေတာ မြိုင်မြင်သွားပြန်ပြီထင်တယ်၊ ရှက်လိုက်တာ”

“ဟွန့် တစ်ချိန်လုံးကို ရှက်နေတော့တာပဲ”

မကျေမနပ်စကား။ သူကသာ မျက်နှာနီဖြင့်

“ဟုတ်ကဲ့ ဟီး၊ ရှက်နေတာကိုရှက်တာ ဟီးဟီး”

ရှက်ရင်း ရှက်ရင်းနှင့်ပင် ပလာဇာရောက်လာ၏။ ပလာဇာရောက်တော့လဲ ရှက်ရှက်နှင့်ပင် လမ်းပြရသည်။

“ဆေးတွေရောင်းတာ က ပလာဇာအပေါ်ထပ်မှာ၊ လာ ရှက်လိုက်ရအောင်၊ အဲလေ တက်လိုက်ရအောင်”

နှစ်ယောက်သား မလည်

မြိုင်၏လက်ကိုဆွဲပြီး
မျက်ရည်များ
ရစ်ဝိုင်းနေသည်။
အနိတိုကြီးကိုကြည့်၍
နှစ်ယောက်သား
ကြောင်တတ်တတ်နှင့်
ရပ်နေမိသည်။
မြိုင်လဲ
ထိုဝိနိုးမကြီးကို သိပုံမပေါ်။

သည့် စက်လှေကားပေါ် ယှဉ်တက်ရတာကိုက ကြည်နူးစရာ။

"လာ ဆေးဆိုင်က ဟိုဖက်မှာ"

သူမက မျက်စောင်းထိုးရင်း

"သိပါတယ်၊ ဝယ်နေကျပါ"

"ဩော် ဝယ်နေကျလား၊ ရှက်လိုက်တာ"

ရှက်ရှက်နှင့်ပင် ဆေးဆိုင်သို့ဝင်ရသည်။

"ဘီတက်(စ်)တစ်ကတ်၊ အက်ဒီနိုလောတစ်ကတ်၊ ဘီဝမ်း တစ်ကတ်၊ ဆူပရာတင်း"

သူမက အဘွားအတွက် လိုအပ်သောဆေးများ ဝယ်ယူနေသည်။

သူကတော့ ရှက်ရှက်နှင့်ပင် ယောင်လည်လည်နှင့် သူမအနား ကပ်နေမိသည်။

"ရပြီ"

လိုအပ်သောဆေးများ ရသည်နှင့် သူမက ဆေးဆိုင်ကပြန် ထွက်သည်။

"ပေး ကိုယ်ဆွဲပေးမယ်လေ"

"ရပါတယ်၊ ပေါ့ပေါ့လေးကို"

"အားမနာပါနဲ့ အမှတ်တွဲတွေပဲဟာကို၊ အဲလေ အဲလိုပေါ့ ဟဲဟဲ"

သူက သူမလက်မှအထုပ်ကို လှမ်းယူလိုက်သည်။ ထိုစဉ်မှာ ပင်

"သမီး သမီးလေး သမီးလေး"

အရှေ့မှ အထုပ်အပိုးမြောက်များစွာ ဆွဲထားသော မိန်းမ ကြီးတစ်ယောက်အော်သံ။ ထိုအော်သံကြောင့် နှစ်ယောက်သား ကြောင်သွားမိသည်။ မိန်းမကြီးက အံ့ဩဟန်နှင့် သူ့ရင်ဘတ်သို့ပြေး ပြေးလာကာ

"အောင်မလေး သမီးလေး သမီးလေး"

ဆိုကာ မြိုင်၏လက်ကိုဆွဲပြီး မျက်ရည်များ ရစ်ဝိုင်းနေသည်။ အန်တီကြီးကိုကြည့်၍ နှစ်ယောက်သား ကြောင်တတ်တတ်နှင့် ရပ်နေမိသည်။ မြိုင့်လဲ ထိုမိန်းမကြီးကို သိပုံမပေါ်။

အတန်ကြာမှ

"အန်တီလူမှားနေပြီထင်တယ်၊ ကျွန်မ အန်တီ့သမီးမဟုတ်ဘူး"

သူမစကားကို အန်တီကြီးက ဝမ်းနည်းဝမ်းသာဟန်နှင့် ခုန်ဆွခုန်ဆွလုပ်ကာ

"အန်တီသိတယ်၊ အန်တီသိတယ်၊ အောင်မလေး တူလွန်းလို့ပါ"

ဆိုကာ အနောက်ဖက်သို့လှည့်၍

"ဟဲ့ မိအေးမြိုင်တို့ ဒေါ်ကျော့တင့်တို့ရေ ဟောဒီမှာ လာကြည့်ကြပါဦး၊ သမီးလေး သမီးလေး"

သူ့အော်သံကြားသည်နှင့် သူ့နည်းတူစွာ ဝယ်ပြီးသားအထုပ်အပိုးမြောက်မြားစွာ ဆွဲထားသော မိန်းမကြီးနှစ်ယောက် ပြေးလာပြန်သည်။ ထိုအဒေါ်ကြီးများလဲ သူမကိုမြင်သည်နှင့်

"ဟယ် သမီးလေး သမီးလေး ချွတ်စွပ်ပါပဲလား"

"ဟင် ဒါလေးက ယူ့သမီးအတိုင်းပါပဲလား၊ ဟင် ဟယ် အံ့ဩစရာ"

ဆိုကာ အထုပ်အပိုးများနှင့် အနားမှာ ဝိုင်းရံလာပြန်သည်။ အားလုံးကိုကြည့်၍ နှစ်ယောက်သား အံ့အားသင့်နေရသည်။ အန်တီကြီးများဝယ်လာသော ပစ္စည်းများကို ကြည့်ခြင်းအားဖြင့် ခေသူများမဟုတ်မှန်း သိသာလှသည်။

သို့သော်

"အဟဲ အန်တီတို့လူမှားနေပြီထင်တယ်၊ ဟိုလေ မြိုင်က အန်တီတို့သမီးမဟုတ်ဘူးမှတ်တယ်"

အောင်သူရိန်၏ စကားကို ပထမဆုံးရောက်လာသော အထုပ်အပိုးများနှင့် အန်တီက မျက်ရည်ကိုပင့်သုတ်ကာ

"အန်တီသိပါတယ် သားရယ်၊ ဒါပေမယ့် ဒီသမီးလေးက ဆုံးသွားတဲ့ အဟာင့်"

အန်တီကြီးမှာ စကားပင်မဆက်နိုင်ရှာ။ ဒါကို ဘေးမှ ထပ်ရောက်လာသော နောက်တစ်ယောက်က

"ဟုတ်ပါတယ်ကွယ်၊ ဟောဒီသမီးလေးက ပြီးခဲ့တဲ့လကမှ ဆုံးသွားတဲ့ သူ့သမီးလေးနဲ့ ချွတ်စွပ်တူနေတာပါပဲကွယ်"

"ဩော်"

အခုမှ အဖြေရှင်းသွားသည်။ ပြီးခဲ့တဲ့လကမှ ဆုံးသွားတာဆိုတော့ ထင်ယောင်ထင်မှား ဖြစ်နိုင်သည်ပဲ။

ဒါကို အန်တီကြီးက

"မဖြစ်နိုင်မှန်းလဲ သိပါ

ဒီလိုဈေးသွားတဲ့အခါတိုင်း
သူ့ ကောင်တာမှာ
ပိုက်ဆံရှင်းရင်
သူ့သမီးလေးက
ခပ်လှမ်းလှမ်းကနေ
မေမေရေ
မေမေမောမှာစိုးလို့
သမီး ဗီးမျော်ရည်လေး
ဝယ်ခဲ့ပေးမယ်ဆိုပြီး
သွားဝယ်ပေးနေကျကွယ့်၊

တယ်တွယ်၊ ဒါပေမယ့် ဘယ်လိုမှ ဖြေဆည်လို့မရလို့ပါ၊ အခုလို အခုလို ဈေးများသွားရင်ဖြင့် အဟင့်"

ဆို့နင့်ပြီး အသံပျောက်သွားပြန်သည်။ ဒါကို ဘေးနားက အန်တီကြီးက

"စိတ်မကောင်းစရာတွေ တွေးမနေပါနဲ့ သူငယ်ချင်းရယ်၊ တင်း ဟုတ်တယ်ကွယ့်၊ ဒီလိုဈေးသွားတဲ့အခါတိုင်း သူ ကောင်တာမှာ ပိုက်ဆံရှင်းရင် သူ့သမီးလေးက ခပ်လှမ်းလှမ်းကနေ မေမေရေ မေမေ မောမှာစိုးလို့ သမီး ဇီးဖျော်ရည်လေး ဝယ်ခဲ့ပေးမယ်ဆိုပြီး သွားဝယ် ပေးနေကျကွယ့်၊ အခုတော့ လွမ်းစရာ"

သက်ပြင်းချမိသည်။ မိခင်ကိုသိတတ်သော သားသမီး၏ အလိုက်သိမှုပင်။ ငိုချင်လျက်လက်တို့ ဖြစ်နေသော အန်တီကြီးက မြိုင် ၏လက်ကို မလွှတ်တမ်းဆွဲထားသေး၏။ ဒါကို ဘေးက အန်တီကြီး က

"ကဲပါသူငယ်ချင်းရယ်၊ မဖြစ်နိုင်မှန်းလဲ သိလျက်နဲ့ စိတ် လျှော့လိုက်ပါ"

"ဟီး. . ငါဘယ်လို စိတ်လျှော့လို့ရမလဲ သူငယ်ချင်းရယ်၊ သမီးလေး သမီးလေး မေမေဈေးလာတိုင်း ဇီးဖျော်ရည်ဝယ်တိုက်တဲ့ သမီးလေး ဟီး"

အားလုံး သက်ပြင်းချကြသည်။ ဘယ်လိုဖျောင်းဖျရမှန်းမသိ။ နောက်မှ ဘေးနားရပ်နေသော အန်တီကြီးက

"ကဲ ဒါဖြင့် မင်းငါတို့နဲ့အတူ ကောင်တာမှာသွားနေ၊ ဒီက သမီးလေးက မင်းသမီးရှိစဉ်ခါကအတိုင်း ခပ်လှမ်းလှမ်းကနေ မေမေ ရေ မေမေမောရင်သောက်ဖို့ သမီးဇီးဖျော်ရည်လေး သွားဝယ်ပေး မယ်လို့ အော်ပြောပြီး ဇီးဖျော်ရည်လေးသွားဝယ်ပေး၊ ဟုတ်ပြီလား၊ ဒီလောက်ဆို မင်းအလွမ်းပြေလောက်ရောပေါ့နော်"

ဆိုကာအကြံပေးသည်။ ဒါကို နောက်တစ်ယောက်ကလဲ

"ဟုတ်သား သူငယ်ချင်းရာ၊ သူများသားသမီး အားနာစရာ၊ ဒီလောက်နဲ့ပဲ အလွမ်းပြေပါတော့ကွယ် နော်"

သူတို့ဘာသာသူတို့ ညှိနေကြသည်။

အတန်ကြာမှ လက်ဆွဲထားသော အန်တီကြီးက စိတ်လျှော့ဟန်နှင့် ခေါင်းကိုညိတ်ပြီး

"အင်းပေါ့လေ၊ ဘယ်လိုမှမဖြစ်နိုင်ရင်လဲ ဒီလိုပဲစိတ်လျှော့ရတာပေါ့။ သမီးလေး ဒါလေးတော့ မေမေ့ကို အဲလေ အန်တီ့ကို ကူညီပါကွယ် နော်"

သနားစဖွယ် မျက်နှာလေးနှင့်မို့ သူမခေါင်းညိတ်လိုက်သည်။

"ရပါတယ်အန်တီ၊ အပန်းမှမကြီးတာ"

"အေးကွယ်၊ သမီးလေး အသက်ရှည်ပါစေကွယ်"

ဆိုကာ ကျန်နှစ်ယောက်က သူ့ကိုတွဲသွားရလေသည်။ ထိုတော့မှ နှစ်ယောက်သား သက်ပြင်းချမိသည်။

မှန်ပေ၏။

လောက၌ ဤမျှလောက်တိုက်ဆိုင်မှုမျိုးက ရှိနိုင်သေးသည်ပဲ။

တစ်ယောက်မျက်နှာတစ်ယောက် ကြည့်မိကြသည်။ နှစ်ယောက်သားမျက်ဝန်းထဲ သံယောဇဉ်ကိုထည့်ဖို့ မေ့လျော့နေကြသည်။

အတန်ကြာမှ

"ကဲ လာ ဟိုအန်တီတွေ ကောင်တာရောက်နေပြီထင်တယ်၊ သွားစို့"

ဆိုကာပြောသွားမိသည်။ သူတို့ရောက်သွားချိန်ဝယ် ကောင်တာ၌ ခုနကအန်တီကြီးများ ပိုက်ဆံရှင်းနေပေပြီ။ လူကလည်း ခပ်လှမ်းလှမ်းမှာမို့ သတိရပြီး

"မေမေရေ မေမေမောရင်သောက်ဖို့ သမီးဖျော်ရည်လေး

သွားဝယ်ပေးမယ်”

ကောင်တာမှာ ပစ္စည်းစာရင်းလုပ်နေသော အန်တီကြီးမှ လှည့်ကြည့်ပြီး ရင်းနှီးဟန်ဖြင့်

“အေး အေး သမီး ဖြည်းဖြည်းသွား၊ မေမေ ကားထဲက စောင့်နေမယ်”

ထိုစကားကြားတော့ အောင်သူရိန်လဲ မနေနိုင်တော့။ ကူညီချင်စိတ်က လှိုက်တက်လာသည်။ ထို့ကြောင့်

“မေမေရေ ကြီးမေတို့ အန်တီတို့အတွက်ပါ သားလဲ ဇီးဖျော်ရည် ဝယ်ခဲ့ပေးမယ်နော်”

သူ့စကားကို ဟိုနှစ်ယောက်ကလဲ

“လိမ္မာလိုက်တဲ့ သားရယ်၊ ကြီးမေအတွက်ကို သံပရာသီးညှစ်ခဲ့”

“အန်တီအတွက်က အချိုလျှော့ကွယ်”

“ဟုတ်ကဲ့ ဟုတ်ကဲ့”

နှစ်ယောက်သား ရယ်မောပျော်ရွှင်စွာ ဇီးဖျော်ရည်ဆိုင်ဖက် ပြိုင်တူပြေးထွက်လာမိကြသည်။

ပြောင်မလိမ်နဲ့
ခုနကပဲ
ခင်ဗျားအမေ
အထုပ်ကြီး
အထုပ်ငယ်နဲ့
ဒီမှာ ပစ္စည်းစာရင်း
လာပေးသွားတာ

"ဩော် တစ်ဖက်သားကို ကိုယ့်ချစ်သူနှင့်အတူ ကူညီရတာ ကြည်နူးစွ"

မှာသည့်အတိုင်း ဇီးဖျော်ရည်များ ဝယ်ယူပြီးပြန်လာတော့

"ဟင်"

"ဟယ်"

ကောင်တာတွင် ခုနအဒေါ်ကြီးများ မရှိတော့။ ဇဝေဇဝါဖြင့်

"ဘယ်ရောက်သွားလဲ"

တစ်ယောက်မျက်နှာတစ်ယောက် ကြည့်မိကြသည်။ နောက်မှ သ ိရပြီး

"ဩော် ခုနက ကားပေါ်မှာ စောင့်နေမယ်လို့ မှာခဲ့သား၊ လာ ကား ေ မှာ ရှိမှာပေါ့"

ဆိုကာ ကောင်တာဆီသွားပြီး ပိုက်ဆံရှင်းလိုက်သည်။

စိတ်ကပဲ စောနေ၍လားမသိ။ ကောင်တာမှာ ပိုက်ဆံတွက် တာ ြကြာနေသယောင်။ ဇီးဖျော်ရည်တောင် အအေးလျော့လာပြီ။ ပိုက်း ာ တွက်လို့မပြီးသေး။ အတန်ကြာမှ စက်ထဲမှ ဘောက်ချာ စာရွက ဘဂျစ်ဂျစ်နှင့် ထွက်လာသည်၊ ကောင်တာစာရေးက ဘောက်ချာ စာရွက ကို ဖျတ်ခနဲဆွဲယူပြီး အသေအချာပြန်ကြည့်သည်။ ပြီးမှ

"ခြောက်သိန်း ခုနစ်သောင်း လေးထောင့်ငါးရာ"

"ဗျာ"

"ရှင်"

ကြားလိုက်ရသော ငွေပမာဏကြောင့် နှစ်ယောက်လုံး မျက်လုံးပြူးသွားသည်။

နောက် ဇဝေဇဝါနှင့်

"ဘယ် ဘယ်လောက်"

"ခြောက်သိန်း ခုနစ်သောင်းလေးထောင့်ငါးရာလေ"

"ဟင်"

"ရှင်"

အာမေဒိတ်သံများနှင့်အတူ လက်ထဲပါလာသည်များ ပြန်ကြည့်သည်။ နောက်မှ သူမက မယုံကြည်နိုင်စွာဖြင့်

"ဟင် ဒီဆေးလေးဝယ်တာ ခြောက်သိန်းခုနစ်သောင်းလေး တောင်ငါးရာ"

ကောင်တာစာရေးက သူ့ဘောက်ချာ ပြန်ငုံ့ကြည့်သည်။ ပြီးမှ

"ဒီဆေးက လေးထောင့်ငါးရာ"

"ဒါ ဒါဖြင့် ခြောက်သိန်းခုနစ်သောင်းက"

သူမ၏အလောတကြီးအမေး။ ကောင်တာစာရေးက ပြုံးပြီး

"ကျန်တာက ခင်ဗျားအမေ၊ တစ်ဈေးလုံး လှည့်ပတ်ဝယ်သွားတာ"

"ရှင်"

"ဘယ်လို"

အာမေဒိတ်သံနှင့်အတူ ကြောင်ပြီးငြိမ်သွားသည်။ နောက်မှ သတိရပြီး

"ဟင် အမေ၊ ဘယ်ကအမေလဲ၊ အမေမှမရှိတာ"

"ဟုတ်သား၊ သူ့အမေက သေတာကြာပေါ့၊ သေပြီးသားလူက ဘယ့်နှယ် ဈေးပင်းထွက်မှာလဲ"

ကောင်တာစာရေးက သူတို့နှစ်ယောက်ကိုကြည့်၍ မထီတရီ ပြုံးလိုက်သည်။ ပြီးမှ

"ပြောင်မလိမ်နဲ့၊ ခုနကပဲ ခင်ဗျားအမေ အထုပ်ကြီးအထုပ် ငယ်နဲ့ ဒီမှာ ပစ္စည်းစာရင်း လာပေးသွားတာ"

"ဘယ်မှာလဲ၊ ဘယ်တုန်းကလဲ မဖြစ်နိုင်တာ"

ကောင်တာစာရေးက စိတ်ပျက်ဟန်နှင့် ခါးထောက်ပြီး

"ခုနကပဲလေဗျာ၊ ခင်ဗျား တို့နှစ်ယောက်ပဲ အမေ အမေ ဈေးဝယ်ရမောနေရင် သမီးတို့ ဖီးဖျော်ရည်သွားဝယ်ပေးမယ်ဆို"

"ရှင်"

"ဟာ"

နှစ်ယောက်သား မျက်လုံးပြူးသွားသည်။

"ခင်ဗျားကတောင် ကြီးမေနဲ့ အန်တီအတွက်ပါ နှစ်ခွက်ပိုဝယ်ခဲ့မယ်ဆို"

"ဂွ"

ပါးစပ်က စကားပင်မထွက်တော့။

"အဲဒါ အဲဒါ အန်တီတွေက အခုယူထားတာတွေ သားနဲ့သမီး လာရင်ရှင်းမယ်ဆိုပြီး ထွက်သွားလေရဲ့၊ ပေး ခြောက်သိန်းခုနစ်သောင်းလေးထောင့်ငါးရာ"

"ရှင်"

"ဂယ်"

နှစ်ယောက်လုံး စကားပင်မပီတော့။ နေ့ခင်းကြောင်တောင်

နေ့ခင်းကြောင်တောင်
အာချောင်မှုနှင့်
ပေါ်တင်အလိမ်ခံရပြီ။
အာချောင်ဦးကျွာ ဆိုပြီး
ကိုယ့်ပါးကိုကိုယ်
ဖြောင်းခနဲပင်
ဖိတ်ရိုက်လိုက်ချင်မိသည်။

အာချောင်မှုနှင့် ပေါ်တင်အလိမ်ခံရပြီ။ အာချောင်ဦးကွာ ဆိုပြီး ကိုယ့်ပါးကိုကိုယ် ဖြောင်းခနဲပင် ပိတ်ရိုက်လိုက်ချင်မိသည်။ လူတစ်ကိုယ်လုံး ဇောချွေးတို့စိမ့်ထွက်လာသည်။ သူမဆို ဆိုဖွယ်မရှိတော့။ နောက်မှ သတိရပြီး

"ဟာ ဟာ အဲဒါ ဘာမှ မတော်ဘူး၊ ဘာမှမတော်ဘူး"

"ဒါဆို ခင်ဗျားတို့က ဘာလို့ သူ့ကို မေမေလို့အော်ခေါ်တာလဲ"

"ဟင် ဒါက သူအော်ခိုင်းလို့ အော်တာလေ"

ကောင်တာစာရေးကြီးက ပြုံးပြီး

"အာမချောင်နဲ့"

"ဟင်"

"ပလာဇာလာပြီး အာမချောင်နဲ့၊ လာထား ခြောက်သိန်းခုနစ်သောင်းလေးထောင့်ငါးရာ"

အရောင်းစာရေးစကားကြောင့် သူတို့ ပို၍ မျက်လုံးပြူးသွားရသည်။

"ဟင် ဒါ ဒါတွေ ကိုယ်မယူဘဲ ဘာလို့ပေးရမလဲ၊ ပေးနိုင်ဘူးဗျာ"

သူ့စကားကို သူမကလဲ

"ဟုတ်တယ်၊ မပေးနိုင်ဘူး"

အရောင်းစာရေးမျက်နှာ တည်သွားသည်။

"မပေးနိုင်ဘူးဟုတ်လား"

သူတို့နှစ်ယောက်ကလဲ ရင်ကော့ပြီး

"ဟုတ်တယ်၊ မပေးနိုင်ဘူး"

အရောင်းစာရေးက ခေါင်းညိတ်ပြီး

"ရတယ်လေ"

ဆိုကာ ခလုတ်တစ်ခုနှိပ်လိုက်တော့

"ကလင် ကလင် ကလင်"

"ဟာ"

စျေးထဲမြည်ဟီးသွားသော ဘဲလ်သံ။ နောက် ပြေးလာသော ခြေသံများ။

"ဟော့ ဘာဖြစ်လို့လဲဟေ့"

"သူခိုးလား သူခိုးလား"

"ဟင်"

လုံခြုံရေးဝန်ထမ်းများ ပြေးလာကြသည်။ အနားရောက်သည်နှင့် အရောင်းစာရေးက သူတို့ကို လက်ညှိုးထိုးပြီး

"ဒီမှာ ဒီမှာ သူတို့"

လုံခြုံရေးများ ဝေ့ကြည့်သည်။

"သူတို့ဘာဖြစ်လို့လဲ"

"သူတို့ မိသားစုလိုက် ပစ္စည်းတွေဝယ်ပြီး ငွေမရှင်းလို့"

လုံခြုံရေးများ မျက်မှောင်ကြုတ်သွားသည်။

"ဘယ်လောက်ရှင်းရမှာလဲ"

"ခြောက်သိန်း ခုနစ်သောင်း လေးထောင့်ငါးရာ"

"ဟင်"

"ခြောက်သိန်းကျော်တောင်"

လုံခြုံရေးများ မျက်လုံးပြူးကုန်၏။ နောက် ဟိုကြည့်ဒီကြည့်နှင့်

"ဟင် ဒီပစ္စည်းတွေက ဒီလောက်တောင်ကျတယ်"

သူတို့စကားကို အရောင်းစာရေးက

"အာ ဒါနဲ့တောင် ဒီလောက်ကျမလားဗျ၊ သူတို့မိဘတွေခွေ မျိုးတွေ ယူသွားတဲ့ပစ္စည်းတွေက များတာ"

"ဟင် ဆွေမျိုးလိုက်ကြီး၊ အဲဒီဆွေမျိုးတွေကရော"

"ပြေးပြီ"

"ဟင်"

အားလုံးအံ့အားသင့်နေကြသည်။ ပြီးမှ တစ်ယောက်က ကုတ်တဆွဲပြီး

"ဟာ ဒါ ဒါဆို အလွတ်ပေးလို့မဖြစ်ဘူး၊ ရဲလက်အပ်မှရမှာ"

သူ့စကားကို နောက်တစ်ယောက်ကလဲ

"ဟုတ်တယ်၊ ဟုတ်တယ်၊ ဒီလောက်ငွေအများကြီးပါတာဆိုတော့ အမှုကြီးပဲ၊ ရဲလက်အပ်မှဖြစ်မယ်"

ထိုတော့မှ သူတို့လဲ မျက်လုံးပြူးပြီး

"မဟုတ် မဟုတ် ကျွန်တော် ရှင်း ရှင်းပြ"

"လုပ်မနေနဲ့ဟေ့၊ ရဲစခန်းရောက်မှရှင်း"

"ဟုတ်တယ်၊ ဒါ လိမ်လည်မှုပဲ ရဲနဲ့ပဲရှင်း"

"သွား သွား ရဲစခန်းခေါ်သွားကြ"

"မဟုတ် မဟုတ်"

"အာ သွားပါဆိုကွာ၊ ငါလက်ပါမိတော့မယ်"

"မနာချင်ငြိမ်ငြိမ်နေ"

ဤသို့ဖြင့်. .

× × ×

## အမှတ် ၁၁

မျက်နှာကြက်မှ ပန်ကာသံသာ တဂျစ်ဂျစ်ကြား နေရသည်။

စခန်းမှူးက ရှင်းပြသမျှနားထောင်ပြီး မျက်နှာ ငယ်လေးနှင့် ထိုင်နေသော သူတို့ကိုကြည့်သည်။ နောက်မှ သက်ပြင်းချပြီး

"အင်း ဒါက ကူညီရာကနေ တစ်ဖက်က လိမ် သွားတဲ့အမှုပဲ"

"ကျေး ကျေးဇူးပါပဲ စခန်းမှူးကြီးရယ်"

သူတို့နှစ်ယောက်လုံး ဝမ်းသာသွားသည်။ အမှု

မှန်ကို သဘောပေါက်ပြီကိုး။

“ကျွန်တော်တို့ အမှုမှန်ကိုဖော်ထုတ်ပြီး အပြစ်ရှိသူတွေကို အရေးယူပေးပါ့မယ်”

နှစ်ယောက်သား ကြည်နူးစွာပင် တစ်ယောက်မျက်နှာတစ်ယောက် ကြည့်မိသေး၏။ နောက်မှ သတိရပြီး

“ဒါ ဒါဖြင့် ကျွန်တော်တို့ကို ခွင့်ပြုပါဦး”

ဆိုပြီး ဝမ်းသာအားရ ထပြန်ရန်ပြင်ကာမှ

“နေဦး”

စခန်းမှူးတားမြစ်သံကြောင့် တိုးလိုးတန်းလန်းဖြစ်သွား၏။ စခန်းမှူးက သက်ပြင်းချရင်း

“ဒီကိစ္စက ညီလေးတို့ ညီမလေးတို့ ပြောစကားပဲရှိသေးတယ်၊ တရားခံကို မမိသေးတဲ့အတွက် အမှုမှန်က မပေါ်သေးဘူး”



“ဟင်”

နှစ်ယောက်သား ပြန်ထိုင်လိုက်မိသည်။ စခန်းမှူးကဆက်၍

“ဒီတော့ အမှုမှန်မပေါ်မချင်း ညီလေးတို့ ညီမလေးတို့ ဒီစခန်းမှာ တစ်လတိတိ ခံဝန်လာထိုးရမယ်”

“ဟင်”

“ရှင်”

တစ်ယောက်က ဝမ်းသာသံ။ တစ်ယောက်က အံ့သြသံ။

“ဟုတ်တယ်၊ တရားခံဖမ်းမမိမချင်း ညီလေးတို့ ညီမလေးတို့က အမှုတွဲဖြစ်နေတဲ့အတွက် ဒီအတောအတွင်း ဘယ်မှမသွားနိုင်အောင် အပတ်စဉ် ကြာသပတေးနေ့တိုင်း ဒီလိုလာပြီး ခံဝန်ထိုးရလိမ့်မယ်”

“ဟင် တကယ်”

အောင်သူရိန် ဝမ်းသာသွားသည်။ သူမကတော့ မျက်လုံးပြူး

ပြီး ကြောင်တက်တက်နှင့်

"စခန်းမှူးကြီးရယ်၊ တစ်ပတ်နှစ်ရက်လောက် လုပ်လိုက်လို့ မရဘူးလား"

"ဟင်"

နှုတ်ခမ်းစူပြီး မူနွဲ့နွဲ့ကြီး ပြောနေသော အောင်သူရိန်စကားကြောင့် စခန်းမှူးကြီး အံ့အားသင့်သွားသည်။ ဟုတ်သည်လေ။ ရဲစခန်းလိုနေရာမျိုး ဘယ်သူကမှ မလာချင်တာကို ယခုတော့ သူက ဤသို့မဟုတ်။ တစ်ပတ်တစ်ရက်ကိုပင် အားမရဘဲ တစ်ပတ်နှစ်ရက်တိုးတောင်းနေသည်ကို။ ထို့ကြောင့် အံ့အားသင့်ပြီး

"ဘာလို့ နှစ်ရက်တောင်လာချင်တာလဲဟင်"

"အားလို့လေ၊ အားလို့၊ အဟိ နောက် အကွက်ရှိတယ်"

"ဘာ ဘာအကွက်လဲဟင်၊ ရဲစခန်းမှာ ဘာအကွက်ရှိလို့လဲ"

စခန်းမှူး၏ အူကြောင်ကြောင်အမေးကို အောင်သူရိန်က သူ့လက်ချင်းသူပြန်လိမ်ကာ

သူများတွေက အမှုအခင်းနှင့် ကင်းချင်နေကြသည်။ သူကသာ ဖြစ်နိုင်လျှင် နှစ်ကိုယ်တူလက်တွဲပြီး အချုပ်ထဲ ပျော်ပွဲကျင်းပနေချင်သည်ကို။

"အာ စခန်းမှူးကလဲ၊ လျှို့ဝှက်ချက်ကို ဘယ်ပြောလို့ရမလဲ၊ အတွက်ရှိမှန်းသိရင်တော်ပေ့ါ၊ ဟုတ်ဘူးလား ခိခိ"

အားလုံးက သူ့ကိုကြောင်ပြီးကြည့်သည်။ အောင်သူရိန်က သာ ရေမရသောငါးလို ပါးစပ်ကြီးဟစိဟစိနှင့် စခန်းမှူးကြီးလက် မောင်းကို လက်ညှိုးနှင့်ထောက်ပြီး

"လုပ်လိုက်ပါ၊ တစ်ပတ်နှစ်ရက်လောက်၊ ဒါမှမဟုတ် ဒီက အမှုတွဲနဲ့ တစ်လလောက်ပေါင်းပြီး ချုပ်ထားလိုက်ပါလား ဟီဟိ"

"ဟင် နှစ်ယောက်တွဲပြီး တစ်လချုပ်ရမယ်"

"ဟုတ်တယ်၊ ဟီဟိ"

သူတစ်ယောက်တည်း အူတွေရွှင်နေသည်။ အားလုံးက သူ့ ကိုကြောင်ငေးလျက်။ စဉ်းစားကြည့်လေ။ သူများတွေက အမှုအခင်း နှင့် ကင်းချင်နေကြသည်။ သူကသာ ဖြစ်နိုင်လျှင် နှစ်ကိုယ်တူလက် တွဲပြီး အချုပ်ထဲပျော်ပွဲကျင်းပနေချင်သည်ကိုး။

"လုပ်ပါ၊ တစ်လတည်း တွဲချုပ်ထားလိုက်ပါ၊ သားလေးမွေး ရင် လက်ဆောင်ပေးမယ်၊ ဟီဟိ"

ထိုတော့မှ စခန်းမှူးကြီး သဘောပေါက်ပြီး

"အာ ဒါကတော့ ဥပဒေထဲမှာ မရှိလို့ပါကွာ၊ နောက်မဟုတ် ရင် ကူညီချင်ပါတယ်၊ အခု အခုတော့ တစ်ပတ်တစ်ရက်သာ လက် မှတ်လာထိုးကြပါ"

"ဆယ့်ငါးရက်ဆိုရင်ရော၊ ကိုယ်ဝန်ကအစ လာအပ်မယ်"

"တစ်ရက်မှ မရဘူးကွာ၊ ထွီ သူ့ကိုယ်ဝန်များ ရဲက စောင့် ရှောက်စရာလား"

"တစ်ရက်ပဲချုပ်"

"တော်ကွာ၊ တော်ကြာ မင်းတို့အမှုတွဲထဲ ငါပါ,ပါနေမယ်၊ မရဘူး"

ဟိုက အကြောက်အကန်ငြင်းနေတော့ အောင်သူရိန်လဲ ဘာမှမတတ်နိုင်တော့။ ထို့ကြောင့်

"တောက် အခြေခံဥပဒေပြင်ရင် အဲဒီအချက် ထည့်သွင်းရမယ်"

ဆိုကာ

"ဒါဆိုလဲ တစ်ပတ်တစ်ရက် ခံဝန်လာထိုးရမယ်ဆိုတာသာ မဖျက်နဲ့၊ ဒါပဲ"

စခန်းမှူးကြီးလဲ သူ့စကားကို ခေါင်းညိတ်ကာ

"ဒါ ဒါတော့မဖျက်ပါဘူးကွာ၊ တောက် ဒီလောက်စိတ်ကြီးတာ၊ ကရင်လူမျိုးလား မသိပါဘူးကွာ"

စခန်းမှူးကြီးစကားကို အောင်သူရိန်က အားရဝမ်းသာစွာဖြင့်

"ဟုတ်တယ်၊ ဟုတ်တယ်၊ ကျွန်တော်က ကရင်လူမျိုး"

စခန်းမှူးကြီး မျက်လုံးဝိုင်းသွားသည်။

"ဟုတ်လား၊ ငါလဲ ကရင်လူမျိုးပဲ၊ မင်းက ဘာကရင်လဲ၊ စကောကရင်လား၊ ပိုးကရင်လား"

စခန်းမှူးကြီးစကားကို အောင်သူရိန်က ခေါင်းခါပြီး

"ဟင့်အင်း အဲဒီလိုကရင်မျိုးမဟုတ်ဘူး"

စခန်းမှူးကြီး မျက်မှောင်ကြုတ်သွားသည်။

"ဒါဖြင့် ဘာကရင်လဲ"

"ကတုန်ကယင်"

"ဟင်"

စခန်းမှူးကြီး မျက်လုံးပြူးသွားသည်။

"ကတုန်ကယင် မကြားဖူးပါဘူး၊ ဘယ်နားနေလဲ အဲဒီလူမျိုးက"

"ဘယ်နားမှမနေဘူး၊ အဖေက အရက်မျှားပြီး ကတုန်ကယင်ဖြစ်ပြီးမွေးထားလို့ ကတုန်ကယင်ဖြစ်လာတာ"

သူ့စကားလဲဆုံးရော စခန်းမှူးမျက်နှာရဲတက်သွားကာ

"ဟေ့ကောင်တွေ၊ အဲဒီကောင်တစ်ယောက်တည်း ခွဲချုပ်ထားကွာ"

ထိုတော့မှ အောင်သူရိန် ပျာပျာသလဲဖြစ်သွားကာ

"အဲ အဲဒီလိုဆန္ဒမစောနဲ့လေ၊ အခုပဲ ခံဝန်ထိုးထားတဲ့ဟာကို၊ ဟာကိုပဲ"

စခန်းမှူးကြီး သက်ပြင်းချ ခါးထောက်ကာ

"အေး ဒါဆိုလဲ ငါ့ရှေ့က မြန်မြန်သွား၊ နောက်တစ်ခါ ငါ့ရှေ့လာပြီး ကတုန်ကယင်လုပ်ရင် ဖမ်းချုပ်ပစ်မယ်၊ ဒါပဲ"

လေက ဝေ့ခနဲဝင်လာသည်။

× × ×

နှစ်ယောက်သား ခေါင်းငိုက်စိုက်နှင့် ရဲစခန်းထဲမှ ပြန်ထွက်လာသည်။ ရဲစခန်းဝင်း အပြင်ရောက်တော့ ပြန်ငေးမိသည်။ အတန်ကြာမှ

"နှစ်ခါရှိပြီနော်"

သူမပြုံးပါသည်။ နောက်မှ တိုးညှင်းစွာဖြင့်

"တစ်ခါမှတောင် မတွေးမိဖူးဘူး"

"ကိုယ်ရောပဲ"

စကားသံများ တိတ်ဆိတ်သွားသည်။

လမ်းမပေါ် လူအများ ဥဒဟိုဖြတ်သန်းသွားနေ

ကြသည်။ ထိုလူများထဲတွင် သူတို့လို အမှုတွဲများ ပါမလား လိုက်ကြည့်မိသည်။

ဟုတ်ပါ့။ ယောက်ျားနှင့်မိန်းမ ချစ်ခင်ပေါင်းသင်းခြင်းမှာ အမှုတွဲတစ်ခု အတူတွဲလိုက်ခြင်းသာ။ ဖြစ်လာသည့်ပြဿနာ တစ်ပေါင်းတည်း ပေါင်းစည်းခံရမည်ပဲ မဟုတ်ပါလား။ ထို့ကြောင့် ချစ်သူရည်းစားနှင့် အိမ်ထောင်ရှင်များသည် အမှုတွဲ။

× × ×

# အမှတ် ၆၃



ချစ်သူ၏လာရာလမ်းကို လှမ်းမျှော်မိသည်။

ချစ်သူကိုစောင့်စားရမည်မို့ နံနက်စောစော ကတည်းက ဘာမှပင်စားမလာဘဲ ဝီရိယကောင်းစွာ လာစောင့်နေရခြင်းဖြစ်သည်။

ခါတိုင်းနေ့လောက် ရင်ကခုန်လှုပ်ခြင်း မရှိသော်ငြား၊ ရင်ဝဆီသို့ အလုံးကြီးတစ်လုံးက ခုန်ခုန်ပြီး ဆောင့်နေဆဲ။ မျက်နှာကတော့ ပြုံးချင်လို့ကို ပြုံးနေတာဆိုသော အမိပ္ပာယ်ကို အတိအကျပေါ်စေသည့် အပြုံးအစစ်ကြီး တစ်ခုက ကော်နှင့်ကပ်ထားသလို ပေါ်နေဆဲ။

ထိုအပျိုးကြီး ကပ်ပါလာတိုင်း ပေါ်လွင်လှသော သွားဖုံးအောက်တာ ဘဲဥအပေါ်နှစ်လုံး အောက်နှစ်လုံးကလဲ အထင်းသား။

မျက်လုံးမှာစင်း၏။ မျက်တောင်မှာကွေး၏။ အပြုံးကား နှာခေါင်းထက်မြင့်၏။ လက်ပြင်က အလိုလိုကုန်း၍ ခြေမှာ အတွင်းသို့ ခွက်ခွင်သည်။

ဤသည်ကား သူ့အလိုလိုဖြစ်ပေါ်လာသော မူရင်းရုပ်။ မြင်မြင်သမျှ ပါးချချင်လှပါသည်ဆိုသော ပါရမီအပြည့်နှင့်ရုပ်ခံ။

ဂျယ်အများစုကို လက်ဖဝါးမှာ ပွတ်ခြေ၍ သိကြားမင်းတင်ပါးနှင့် အခြားသော မတော်တရော်အစိတ်အပိုင်းများကို ဦးတည်ချိန်ရွယ် ထောင်တင်ထားသော ဆံပင်မှစ၍ သောင်းကျော်တန်ဝယ်ပေး၍ စီးထားရသော ဖိနပ်အတွင်းမှ ခြေသည်းအဆုံး။ မြင်သူတကာတပြုံးပြုံးနှင့် အမုန်းပါးချချင်စရာ။ ဤသည်ကား အောင်သူရိန်အားဘုရားသခင်ပေးလိုက်သော မွေးရာပါလက်ဆောင်။

ဟော။ လာချေပြီ။ သူနှင့်ကျက်သရေခြင်း မီးလောင်သစ်ငုတ်တိုပေါ်မှ မျောက်အိုနှင့် နတ်သမီးတမျှ ကွာခြားလှသော သူမလှမ်းလာပါပြီ။

အနီရောင်ဖိနပ်၊ အကျီနှင့်စကပ် တစ်ဆက်တည်းတွဲစပ်ထားသော အဖြူရောင်ဝတ်စုံနှင့် သူမလှမ်းလာပါပြီ။

လေပြည်ဖြတ်တိုက်သွားတိုင်း မလန့်တလန် စကပ်ကလေးခါထွက်သွားပုံကိုက ကျက်သရေရှိ၏။ ဖြစ်နိုင်လျှင် ထိုလေပြည်လေညှင်းအစား မိမိပင် သိကြားမင်း မတော်တရော်ချိန်ရွယ်ထားသော ဆံပင်ဟု အမည်ရသော အမွေးတချို့နှင့် ခေါင်းကိုချိုးပြီး ပြေးဝှေ့လိုက်ချင်တော့၏။

"တောက် လေပြည်ညှင်းသာ ဖြစ်လိုက်ပါတော့"

မတော်တရော်ပင် ဆုတောင်းမိသေး၏။

ဟော နီးကပ်လာပြီ။

သူ့ကိုမြင်သည်နှင့် သူမ ခြေလှမ်းတို့ တုန့်ခနဲဖြစ်သွားသေး၏။

"မြောင် အဲလေ မြိုင်"

ပါးစပ်ကပင် ဘာအသံတွေ ထွက်နေမိမှန်းမသိ။ မနည်းဘရိတ်အုပ်လိုက်ရသေး၏။

သူမကတော့ ခြေလှမ်းမှန်စွာ။

"ဘယ် ဘယ်သွားမှာလဲ မြောင် အဲလေ မြောင်လို့"

ဘေးနားက ကပ်ပါလာသောသူ့ကို သူမစွေစောင်းကြည့်သည်။ စကားက ရင်တုန်ပြီး ဘယ်လိုမှပင်မပီတော့။ ပါးဖြဲနားဖြဲ လုပ်ရင်း

"မြောင်နဲ့တွေ့မှ ဂျကားတွေတောင် မွှားကုန်ပြီ၊ ဟီးဟီး ရှက်လိုက်တာ"

သူမက ထပ်မံစွေစောင်းကြည့်သည်။

"ကျွန်တော်ရှက်တာ မြင်သွားပြီလား မသိဘူး၊ သိပ်ရှက်တာပဲ ဟီဟိ"

ကြံ့မှပါဆို၊ အဲ မဖြစ်တော့ပါဘူးဆို စိတ်ချ။ ခံဝန်နစ်ကြိမ်နဲ့တင် လုံလောက်ပါပြီ ဟီး ရှက်လိုက်တာ၊ ခံဝန်တဲ့ အဟစ် အဟစ်"

အရေးထဲ လက်သေးသေးထဲ မျက်နှာနီဖွက်၍ ရှက်နေရသေးၿ၏။ ဒါတိုင် သူမက

"ဘယ်သွားမလို့လဲဟင်"

"ရှက်လို့မပြောဘူး၊ အဲလေ ဟုတ်ပေါင်၊ ယောင်လို့ ဟီဟိ အဟု အဟု"

အရေးထဲ ပါးစပ်ထဲထည့်မိသော လက်သည်းက နင်နေရသေးသည်။

နောက်မှ သတိရပြီး

"ဟိုလေ မြောင်ကရော ဘယ်သွားမလို့လဲ"

"အိမ်မှာရေပိုက်တွေပျက်နေလို့ ရေပိုက်ပြင်သမား သွားခေါ်မလို့"

"ဟုတ်လား၊ ဒါဆိုလိုက်ခဲ့ပေးမယ်လေ ရတယ်မဟုတ်လား"

သူမပြန်လှည့်ကြည့်သည်။ မသင်္ကာသည့်သဘော။

"အမူတော့ မဖြစ်တော့ဘူး မဟုတ်လား"

"ကြုံမှ၊ အဲလေ ဖြစ် ဖြစ်တော့ပါဘူး လိမ္မာသွားပြီ"

သူမက မယုံကြည်သေး။

"သေချာပါတယ်နော်"

"ကြုံမှပါဆို၊ အဲ မဖြစ်တော့ပါဘူးဆို စိတ်ချ၊ ခံဝန်နှစ်ကြိမ်နဲ့တင် လုံလောက်ပါပြီ၊ ဟီး ရှက်လိုက်တာ၊ ခံဝန်တဲ့၊ အဟတ် အဟတ်"

အရေးထဲ တက်မလိုက ဖြစ်နေသေးသည်။ သူမကတော့ ဘာစကားမှ ဆက်မပြောဘဲ ခြေလှမ်းကိုသာ ပုံမှန်ဆက်နေ၏။ အောင် သူရိန်ကသာ ပါးချောင်နားချောင်ဖြင့်

"ဒါနဲ့ ခံဝန်ထိုးရတာတောင် နှစ်ကြိမ်ရှိပြီနော်၊ ဘာမှမကျေးရသေးဘူး"

သူမမျက်စောင်းထိုးကြည့်သည်။ ဟုတ်သည်လေ။ ရဲစခန်းမှာ

ခံဝန်ထိုးရတာကိုတောင် ပျော်ပွဲရွှင်ပွဲအနေနှင့် ပါတီပေးရမလို။

"ဒါနဲ့ မနက်စောစောကတည်းက ထွက်လာတာဆိုတော့ ကိုယ်တော့ ဘာမှမစားရသေးဘူး၊ မြိုင်ရော"

သူမ မျက်မှောင်ကြုတ်သွားသည်။

"အင်း ကြုံရာမှာပဲ တစ်ခုခု စားမလားလို့"

သူဝမ်းသာသွားသည်။

"ဒါဖြင့်လဲ မြန်မြန်ကြံ၊ လိုက်ရင်ကောင်းမယ်၊ ဒါမျိုးက စောင့်လို့မကောင်းဘူး၊ အစာအိမ်ဖြစ်မှာ စိုးရတယ်"

အမှန်တော့ သူက ဆာနေတာပါ။ ဒါကို အကြောင်းပြကောင်းအောင် ရှာကြံပြောဆိုနေခြင်းဖြစ်သည်။

ဗိုက်ဆာနေသူမို့ ဘေးဘီအမြန်ဝေ့ကြည့်လိုက်သည်။

"ဟော တွေ့ပြီ"

ခါတိုင်းတွေ့နေကျ မဟုတ်သော်ငြား လမ်းဘေး၌ ထူးထူးခြားခြား ဆိုင်သစ်တစ်ဆိုင်ကို

ဟာ ခင်ဗျားတို့ကလဲ
လေးထိုင်သင်ထောင်ထားပြီ
တစ်မျိုးပဲရလား။
ပဲ့ပဲ့တို့
ကဲ ရတဲ့မုန့်ဟင်းခါးပဲချ
အကြော်ကရော
ဘာကြော်တွေရလဲ

တွေ့ရသည်။

အပြင်အဆင်က သားသားနားနား မဟုတ်သော်ငြား၊ သူဟာနှင့်သူ စည်ကားနေသည်။

"ဟိုမှာ ဆိုင်သစ်ကလေးလား မသိဘူး၊ အခင်းအကျင်းမကောင်းပေမယ့် အစားအသောက်ကောင်းလို့ထင်တယ်၊ လူတွေစည်လို့၊ လာ အဲဒီဆိုင်ပဲ သွားရအောင်"

ဆိုကာ ကိုယ်တိုင်ဦးဆောင်၍ ဝါးတိုင်လေးများဖြင့် ဖြစ်သလိုတဲထိုးထားသော ဆိုင်ကလေးအတွင်းသို့ ခပ်သွက်သွက်လှမ်းဝင်လိုက်သည်။

သူမကလဲ ဘုမသိဘမသိနှင့် အောင်သူရိန်နောက်ကပ်လျက်လွတ်နေသောခုံများဆီ ဝင်ထိုင်လိုက်သည်။

အောင်သူရိန်ကတော့ ချစ်သူရှေ့မှာမို့ ကြွားဝါစွာဖြင့်

"ဟေ့ ဒီမှာ မှာမလို့၊ တစ်ယောက်လာစမ်း"

သူ့အော်သံကြောင့် အမျိုးသမီးကြီးတစ်ဦး ညှိုးငယ်သောမျက်နှာဖြင့် ရောက်လာသည်။ စားသုံးသူများက သူ့ကို တအံ့တသြကြည့်ကြသည်။

အောင်သူရိန်က ရင်ကော့၍

"ဒီမှာ စားစရာဘာရလဲ၊ တန်းစီပြီးပြော"

အဒေါ်ကြီးက အိုကျသောမျက်နှာကို ပဝါလေးပင့်သုတ်ကာ

"မုန့်ဟင်းခါးတစ်မျိုးပဲ ရပါတယ်ကွယ်"

အောင်သူရိန်က မျက်နှာရှုံ့မဲ့လိုက်ပြီး

"ဟာ ခင်ဗျားတို့ကလဲ လေးတိုင်စင်ထောင်ထားပြီး တစ်မျိုးပဲရလား၊ ပွဲပွဲ့ဗျာ၊ ကဲ ရတဲ့မုန့်ဟင်းခါးပဲချ၊ အကြော်ကရော ဘာကြော်တွေရလဲ"

အဒေါ်ကြီးက တဘက်နှင့် မျက်နှာပင့်သုတ်ပြီး

"အကြော်တွေလဲ မရပါဘူးကွယ်၊ အလွတ်ပဲရမှာပါ"

အောင်သူရိန် ပိုတင်းသွားသည်။ ထို့ကြောင့် စားပွဲကို ခပ်ကြမ်းကြမ်းပုတ်ပြီး

"ဘာဗျ၊ မုန့်ဟင်းခါးက အကြော်တောင်မရဘူး ဟုတ်လား၊ ဒါဆိုလဲ လုပ်စားမနေနဲ့တော့လေ၊ တော်တော့လေ"

သူ့စကားကို နံဘေးနားက မြိုင်က

"ကဲပါ၊ အလွတ်ပဲရလဲ အလွတ်ပဲစားတာပေါ့၊ အဒေါ်ကြီး အလွတ်နှစ်ပွဲ"

"ဟုတ်ကဲ့ရှင့်၊ ဟုတ်ကဲ့ပါ၊ လာပေးတဲ့အတွက် ကျေးဇူးတင်ပါတယ်"

အဒေါ်ကြီးစကားကို အောင်သူရိန် မျက်နှာရှုံ့မဲ့ကာ

"အောင်မယ်၊ သူကပဲ ပြောရတယ်ရှိသေး၊ ဟော့ ဆေးလိပ်ပါ တစ်ခါတည်း ဆွဲခဲ့ဟော့၊ ပန်ကာလဲဖွင့်ဦး ပူတယ်"

သိပ်မကြာပါ၊ အဒေါ်ကြီး ခပ်နွမ်းနွမ်းပန်းကန်နှစ်ချပ်နှင့် မုန့်ဟင်းခါးများ ဆွဲလာသည်။ အောင်သူရိန်က မုန့်ဟင်းခါးထည့်လာသောပန်းကန်များကိုကြည့်ပြီး

"ဟွန်း ပန်းကန်ကလဲ စုတ်ပြတ်နေလိုက်တာ၊ စီးပွားကဖြစ်ဦးမယ်၊ ပန်ကာဖွင့်ဦးလေ"

"ပန်ကာတော့ မရှိပါဘူးကွယ်၊ ယပ်တောင်လေးပဲ ရှိပါတယ်"

ဆိုကာ ယပ်တောင်နှစ်ချောင်း ကမ်းပေး၏။ အောင်သူရိန်က ယပ်တောင်ကို ငုံ့ကြည့်ပြီး

"ဟွန်း ပဲ့လိုက်တာ၊ ဒီလောက်ပဲ့တာတောင် လူတွေက ပြည့်နေသေး၊ ဆေးလိပ်မှာလိုက်တာရောပါလား"

သူ့စကားကို အဒေါ်ကြီးက ရိုသေစွာဖြင့်

"ပါပါတယ်ကွယ်၊ ရော့ ဒီမှာပါ"

"ဟင်"

အဒေါ်ကြီးချပေးသော ဆေးလိပ်များကိုကြည့်ပြီး အောင်သူရိန် ဝုန်းခနဲ ထရပ်လိုက်သည်။

"ဟင် ဒါ ဒါဘာသဘော လဲ၊ ဘာသဘောလဲ"

အဒေါ်ကြီးက မျက်လုံး ကလယ်ကလယ်နှင့်

"ဘာ ဘာဖြစ်လို့လဲ ကွယ်"

"ခင်ဗျားကြီးချပေးတဲ့ ဆေးလိပ် ကြည့်စမ်း ဆေးပေါ့လိပ်တွေ၊ ကျုပ်ရုပ်က ဆေးပေါ့လိပ်သောက်တဲ့ရုပ်လား၊ သွား စီးကရက်သွားယူလာ၊ နောက် ဒီစုတ်ပြတ်သတ်နေတဲ့ မုန့်ဟင်းခါးလဲ မစားဘူး၊ ထမင်းကြော်တစ်ပွဲ ကြက်ဥ ဟတ်ဖရိုက်နဲ့ အမြန်ကြော်လာ"

အောင်သူရိန်၏စကား ကြားသည်နှင့် ငိုချင်လျက်လက်တို့ ဖြစ်နေသော အဒေါ်ကြီးမျက်လုံး ထဲမှ မျက်ရည်များ ပတစ်ခနဲလျှံကျကာ

"အောင်မလေး ကိုဘ မောင်ရဲ့ ရှင်သေတာတောင် ကောင်း

ဟာ ဒီကောင်
လုပ်ပါးဝလှချည်လား။
သူများအသုဘလာပြီး
ထမင်းကြော်
ဟတ်ဖရိုက်နဲ့
မှာစားတယ်တဲ့

ကောင်းမသေရပါလားဟင်၊ အနိုင်ကျင့်တဲ့လူက ပေါ်လာပြန်ပြီ ဟီး"

"ဟင်"

အဒေါ်ကြီးငိုသံကြားတော့ အောင်သူရိန်လန့်သွားသည်။ အဒေါ်ကြီးက သူ့ရင်ဘတ်သူထုပြီး

"အောင်မလေးတော်၊ ကြည့်ကြပါဦး အရပ်ကတို့ရဲ့၊ သူများ အသုဘလာပြီး မုန့်ဟင်းခါးမစားချင်ဘူး၊ ထမင်းကြော်ကို ကြက်ဥ ဟတ်ဖရိုက်နဲ့ ကြော်ပေးပါတဲ့တော်ရေ၊ စဉ်းစားကြည့်ကြပါဦး၊ ဟီးဟီး"

"ဟာ"

အဒေါ်ကြီးစကားကြောင့် အောင်သူရိန် ကြက်သေသေသွားသည်။ နံဘေးနားက ပရိသတ်များကလဲ

"ဟာ ဒီကောင် လူပါးဝလှချည်လား၊ သူများအသုဘလာပြီး ထမင်းကြော်ဟတ်ဖရိုက်နဲ့ မှာစားတယ်တဲ့"

"စီးကရက်ပါ ပါသေးရဲ့တော်၊ ဟီး"

"အောင်မာ သူလိုကိုယ်လို ဖက်ကြမ်းမသောက်ဘဲ၊ ဒါ တမင် ကြောတာ"

"မုန့်ဟင်းခါးကိုလဲ အကြော်စုံမရလို့ မစားနိုင်ဘူးတဲ့တော် ရေ၊ ဟီး"

အားလုံး ဒေါသငယ်ထိပ်ဆောင့်ကုန်၏။

"ဒါကတော့ လွန်လွန်းပြီဟေ့၊ ဘယ်မအေ့လင် အသုဘက အကြော်စုံနဲ့ကျွေးလို့တုန်း"

"ဟုတ်တယ်၊ ဒါ အားနာတတ်တဲ့ ဘမောင်ကြီးကို သေတာ တောင် လာကြောတာ"

"ဒါမျိုးကတော့ အရှင်မထားသင့်ဘူးဟေ့၊ ဘမောင်နဲ့အတူ မြေမြှုပ်ရအောင်"

"လုပ်ကြပါတော်၊ လုပ်ကြပါ၊ ကျုပ်ကတော့ Rေနည်လိုပဲ

ခွင့်ပြုတယ်၊ ခွင့် လွှတ်တယ်တော်ရေ့၊ ဟီး"

အားလုံး တစ်ယောက်တစ်ပေါက် စကားသံများကြားတော့ အောင်သူရိန် မျက်လုံးပြူးသွားသည်။

"နေ နေကြပါဦး၊ ဒါ ဒါက အသုဘလား"

"ဆိုင်းဘုတ်လဲ ထောင်ထားပါရဲ့တော်၊ ယပ်တောင်လဲ ကမ်းပြီးသားပါ"

ယောင်ယောင်ကမ်းကမ်းနှင့် ယပ်တောင်ပြန်ကိုင်ကြည့်သည်။ ရေးထားသည်က

"ဦးဘမောင် (၅၂)နှစ်"

"ဟင်"

အောင်သူရိန် ခေါင်းနပန်းကြီးသွားသည်။ နောက် ပါးစပ်မှ ကချော်ကချွတ်ဖြင့်

"ဟင် ဒါ ဒါ ပန်ကာမရှိလို့ပေးတာ မဟုတ်ဘူးလား"

"အောင်မလေး အသုဘလာပြီး ပန်ကာလက်ဆောင်လာတောင်းနေတယ် ကိုဘမောင်ရေ့ လုပ်ကြပါဦး၊ ဟီး၊ ဘယ်အသုဘက ယပ်တောင်အစား ပန်ကာဝေဖူးလို့လဲ၊ ဟီး"

"ဟာ"

ပြောလေပိုဆိုးလေ ဖြစ်လာတော့သည်။ ဘယ်လိုရှင်းပြရမှန်းလဲမသိ။ ရုပ်ကြည့်တော့လဲ စပါးလုံးတစ်ထောက်စာမျှပင် ချစ်စ,မွေးမပါရှိသော မွေးရာပါ ကျက်သရေချို့တဲ့သော မျက်ခွက်ကြီးကိုက ပရိသတ်အလည် အားရပါးရ ဆူဆဲ၍ ညာဒူးနှင့်ဝိုက်ဆွဲချင်စရာကြီးဖြစ်နေ၏။

"ဒါ ဒါ အဲလေ ကျွန်တော်က ရောင်းတာမှတ်လို့"

"အောင်မာ ရုပ်ကသာ ဘာမှမဟုတ်တာ၊ လူက အသုဘလေလဲ"

"ဟင်"

"ရုပ်ကလဲ ပိုက်ဆံပေးနိုင်မယ့်ရုပ်လဲ မဟုတ်ပါဘူး၊ ကြာပါတယ်ကွာ၊ အသုဘလာဖျက်တဲ့ကောင် ဖြစ်သလိုလေး ဝိုင်းရိုက်လိုက်ကြရအောင်"

"ဟာ မဟုတ် မဟုတ်သေး"

"ထောင်ထားတဲ့ ကက်ဖုတ်ဆွဲပြီး ညာဒူးနဲ့ဆွဲမယ်ကွာ"

"ရိုက်ရင် လက်နာပါတယ်ကွာ၊ ပေါင်ခွကြား ဝါးရင်းတုတ်လျှိုပြီး ဆောင့်ခနဲထမ်းရအောင်"

"ပြောနေကြာတယ်၊ ချကွာ"

လူတွေက တဖြည်းဖြည်းဝိုင်းလာသည်။ ဘယ်လိုရှင်းပြရမှန်းမသိတော့။

မြိုင်ခမျာလဲ လှုပ်ပင်မလှုပ်နိုင်တော့။

ထိုစဉ်မှာပင်

"ဟေ့ ဟေ့ တော်ကြစမ်း၊ တော်ကြစမ်း"

လူကြီးတစ်ဦး ထလာတော့ အားလုံးတန့်ကုန်၏။ လူကြီးက ရှေ့ထွက်လာပြီး

"မင်းတို့ဝိုင်းရိုက်တာက အကြောင်းမဟုတ်ဘူးကွ"

"ဒါဆို ဘာကအကြောင်းလဲ"

"တစ်ရပ်ကွက်ထဲ အသုဘနှစ်ခု မဖြစ်ကောင်းဘူးကွ၊ ရပ်ကွက်နာတယ်"

အားလုံး ရှဲခနဲပြန်ဖြစ်ကုန်၏။

"ကောင်လေးရုပ်က ရိုက်တော့ရိုက်ချင်စရာလေးပဲကွ၊ ဒါပေမယ့် ခြေလွန်လက်လွန်ဖြစ်ရင် အို ဒီရုပ်နဲ့က ဖြစ်ကိုဖြစ်မှာ၊ ဒီလိုဖြစ်သွားရင် ရပ်ကွက်နာတယ်ကွ၊ နော်"

"အဲဒီတော့"

"အဲဒီတော့ ရဲလက်အပ်လိုက်တာ ကောင်းတာပေါ့ကွာ၊ သူ့ဘာသာ အချုပ်ထဲ တစ်ပတ်ဆယ်ရက် နေပါစေ"

"ဟုတ်"

"ရှင်"

ထိုသို့ဖြင့်

× × ×

အုတ်နံ့ရုံထူထူများက လှောင်အိုက်မနေဘဲ အေး
စက်စက်ပင် ဖြစ်နေလေသည်။

ရှင်းပြတော့လဲ ရဲများက ယုံရှာသည်။

"ဒါမျိုးက ဖြစ်တော့ဖြစ်ခဲတယ်ကွ၊ ဒါနဲ့ မင်းတို့
အဝင်မှာ ဆိုင်းဘုတ်မကြည့်ဘူးလား"

"ကြည့်တော့ကြည့်ပါတယ်ဆရာရယ်၊ ဒါပေမယ့်
ဦးဘမောင် (၅၂)ဆိုတော့ (၅၂)လမ်းက ဦးဘမောင်ကြီး
ပြောင်းလာပြီး ဆိုင်လာဖွင့်တယ် မှတ်တာပေါ့ အဟင့်"

စခန်းမှူးကြီးက ခေါင်းတဆတ်ဆတ်ညိတ်သည်။

ငြိမ်းနေဘတ် မြိုင်ဖက်လှည့်၍

“ဒီကညီမလေးကရော ဘာပြောစရာရှိလဲ”

မြိုင်က အောင်သူရိန်ဖက်ဝေ့ကြည့်ရင်း

“သူပြောတဲ့အတိုင်းပါပဲ”

စခန်းမှူးကြီးက ခေါင်းညိတ်ပြန်သည်။ ပြီးမှ

“အေးပေါ့လေ၊ သူများအသုဘသွားပြီး ထမင်းကြော်နဲ့ ကြက်ဥဟာတ်ဖရိုက်မှာစားတယ်ဆိုတော့ နည်းနည်းတော့လွန်တာပေါ့”

ပြောစရာစကားမရှိတော့။ ရှက်ရွံ့စွာပင် ခေါင်းငုံ့ထားမိသည်။

“ဒါထက်ဆိုးတာက ယပ်တောင်ပေးတာတောင် ပန်ကာတောင်းတာဆိုတော့ အင်း”

သူမထံမှ နွံ့ခနဲ ရယ်သံကြားရ၏။

အဖြစ်အပျက်ကို ပြန်စဉ်းစားမိပြီး ခိုးရယ်လိုက်တာလဲ ဖြစ်နိုင်သည်။

“ဒီရပ်ဒီရည်နဲ့ ဒီလိုအပြုအမူနဲ့ ဒီရပ်ကွက်ကလူတွေရဲ့ သည်းခံနိုင်စိတ်ကို ပဏာမ ချီးကျူးရမှာပဲလေ”

ဘာမှမပြောသာတော့။ ဟုတ်ကြောင်းမှန်ကြောင်းကို ထောင်ထားသော ဆံပင်လေးပြန်ဖိပြီး ဝန်ခံရသည်။

“ကဲ ဘာပဲပြောပြောလေ၊ ဖြစ်တာက ဖြစ်ပြီးသွားပြီ၊ ဘေးမသီရန်မခ ပြီးဆုံးသွားတာကိုပဲ ကျေးဇူးတင်ရမယ်၊ အေးလေ ရပ်ကွက်သားများရဲ့ ခန္တီစကိုပဲ ချီးကျူးရမှာပေါ့”

အရေးထဲ ရပ်ကွက်ပတ်ပြီး ကျေးဇူးတင်နေသေး၏။

“အမှုကြီးမဟုတ်ပေမယ့် နောင်ဆို ဒီလိုမျိုး မဖြစ်နိုင်အောင်သတိထားရမယ်”

အောင်သူရိန် ပျာပျာသလဲ ခေါင်းညိတ်ပြီး

"ဟုတ် ဟုတ်ကဲ့၊ သတိထားပါ့မယ်၊ စိတ်ချပါခင်ဗျာ၊ နောင်မဖြစ်စေရပါဘူး"

စခန်းမှူးကြီးက ခေါင်းခါပြီး

"ဒီအတိုင်း ကတိပေးလို့ မရဘူး"

"ဗျာ ဒါဆို"

"တစ်ပတ်တစ်ခါ ခံဝန်လာထိုးရမယ်"

စခန်းမှူးကြီးစကားကို အောင်သူရိန် ခေါင်းညိတ်ပြီး

"ရတယ်လေ၊ ဗုဒ္ဓဟူးနေ့ထားလိုက်၊ ဟုတ်ပြီလား၊ ကျန်တဲ့နေ့မအားလို့"

"ဟုတ်ပြီ၊ ဘာကွ၊ မင်းကများ"

သူ့စကားကို ထောက်ခံပြီးမှ စခန်းမှူးကြီး ထအော်သည်။ ထိုတော့မှ အောင်သူရိန် သတိရသွားပြီး

"ဟို ဟိုလေ အဆင်ပြေမယ့်နေ့လေး ရွေးမိတာပါ၊ အဟဲ"

အမှန်တော့ ဟိုဖက်ရဲစခန်းနှစ်ခုမှာ သောကြာနှင့်ကြာသပတေး

ခံဝန်ထိုးတာတောင်
ရက်ရာဇာ
ရွေးချင်နေလဲရွေးပေါ့
ကဲ မင်းပြောတဲ့
ဗုဒ္ဓဟူးပဲ ထားပါတော့၊
အဲဒီနေ့တိုင်း မပျက်မကွက်
နှစ်ယောက်လုံး
လက်မှတ်လာထိုးကြရမယ်၊

နှစ်ရက် ခံဝန်ရထားပြီမဟုတ်လား။

စခန်းမှူးကြီးက သက်ပြင်းချပြီး

"ဟုတ်ပါပြီကွာ၊ ခံဝန်ထိုးတာတောင် ရက်ရာဇာရွေးချင်နေလဲရွေးပေါ့၊ ကဲ မင်းပြောတဲ့ ဗုဒ္ဓဟူးပဲ ထားပါတော့၊ အဲဒီနေ့တိုင်း မပျက်မကွက် နှစ်ယောက်လုံး လက်မှတ်လာထိုးကြရမယ်၊ ကြားလား"

"ကျေးဇူးကြီးလှပါပြီ စခန်းမှူးကြီး"

အောင်သူရိန်စကား ကြားသည်နှင့် စခန်းမှူးက မျက်မှောင်ကြုတ်ပြီး

"ဘာကွ၊ ခံဝန်ထိုးရတာတောင် မင်းက ငါ့ကို ကျေးဇူးတင်တယ် ဟုတ်လား"

အောင်သူရိန် ထိန်းမရသော မျက်နှာကြီးဖြင့်

"ကျန်တဲ့စခန်းတွေဆို ကျွန်တော် အဆစ်ပါတောင်းတယ်၊ အဟဲ ရဲတွေဆီက အဆစ်တောင်းမရမှန်းသိလို့ တောင်းတော့ဘူး"

စခန်းမှူးကြီးက သူ့ကို ဇဝေဇဝါကြည့်ပြီး

"ဒီကောင် ဘာတွေလျှောက်ပြောနေမှန်း မသိဘူး"

ဆိုကာ မြိုင်ဖက်လှည့်၍

"သူပြောတာတွေ နားလည်လား"

မြိုင်က ခေါင်းညိတ်၍

"ဟုတ်ကဲ့"

"ဟင်"

ရဲကိုယ်တိုင်ပင် နားမလည်သောစကားကို သူမ နားလည်သည်ဆိုတော့ အံ့အားသင့်သွားပုံရ၏။ ပထမတော့ ကြောင်နေသေး၏။ နောက်မှ

"အေး အေး၊ နားလည်ရင်လဲပြီးရော၊ သွားတော့ သွားတော့၊ အဲ ဗုဒ္ဓဟူးနေ့တော့ မမေ့နဲ့ပေါ့"

သူ့စကားကို အောင်သူရိန်က အားရပါးရပြုံး၍ "စိတ်ချ၊ မနက်ဖြန်ဝေလီဝေလင်းထဲက ရောက်ရစေ့မယ်" ဟုသို့ဖြင့်. .

× × ×

အမှုတွဲတစ်ခု ခေါင်းငိုက်စိုက်ချရင်း ပြန်ထွက်လာကြသည်။

တစ်ပတ်တွင် ခံဝန်သုံးရက်ကြီးများတောင် ထိုးရသောလူမျိုး လောက၌ ရှားပေလိမ့်မည်။ သို့သော် ထိုရှားပါးပစ္စည်းထဲကမှ နှစ်ယောက်ပူးသော အမှုတွဲက ယခုရှိနေပေပြီ။

"မြိုင်"

သူမခေါ်ကြည့်ပါသည်။ သူ ခေါင်းကိုငုံ့ရင်း

"စိတ်ပျက်သွားပြီလားဟင်"

သူ့အမေးကို သူမ မျက်လုံးဝင့်ကြည့်ပြီး
"ဘာကိုလဲဟင်"
အောင်သူရိန် ရယ်ကျဲကျဲလုပ်ရင်း
"ကျွန်တော်နဲ့ အမှုတွေ ဖြစ်နေတာကိုပေါ့"
"ဪ ဟင်း ဟင်း"
သူမ တိုးညှင်းစွာရယ်ပါသည်။ ပြီးမှ
"တစ်ခါမှ မတွေးခဲ့မိဘူးနော်"
"ဟုတ်ပ"
သူမ တိတ်တိတ်ကလေး ရယ်နေသည်။ အတန်ကြာမှ
"တမင်လုပ်တာတွေမှ မဟုတ်တာဘဲ"

သူမ၏ ခွင့်လွှတ်နိုင်စိတ်၊ အကောင်းမြင်စိတ်ကို လေးစားမိသည်။ တော်ရုံလူဆို အပြစ်တင်ရုံမက ပါးနားရိုက်၍ မောင်းပင်ထုတ်ဦးမည်။ ယခု သူမက ဤသို့မဟုတ်။ ထို့အပြင်

"ဟိုလေ အကူအညီတစ်ခု တောင်းလို့ရမလား"
သူမထံမှ ထိုစကားသံကြားတော့ ဝမ်းသာသွားရသည်။
"ဘာလဲ၊ ကိုယ်ဘာကူညီပေးရမလဲ"
အောင်သူရိန်၏ အလောတကြီးအမေး။

"မနက်ဖြန်ညနေကျ မော်ဘီအလွန်ဖက်က အဘွားရွာကို သွားပေးစရာရှိတယ်၊ အဲဒါ မှောင်မှာဆိုတော့ တစ်ယောက်တည်း"

သူမ၏စကား မဆုံးလိုက်။ အောင်သူရိန်က အားရဝမ်းသာဖြင့်

"ဟာ ရတယ်၊ ရတယ်၊ ဘာမှမပူနဲ့၊ ကျွန်တော် ကားယူခဲ့မယ်၊ ကားနဲ့အတူသွားကြတာပေါ့"

သူမက ပြုံးပါသည်။
"ဒါနဲ့ အဘွားကရော လိုက်မှာလား"

သူမ ခေါင်းယမ်းရင်း

"ဟင့်အင်း မလိုက်ဘူး၊ ဦးလေးတွေရှိတယ်လေ၊ အဲဒါ ငွေပို့ပေးမလို့"

"ဩော် ရတယ်၊ ရတယ်၊ လိုက်ပို့ပေးပါ့မယ်၊ စိတ်ချပါ"

"မရောက်တာကြာလို့ နည်းနည်းတော့ ရှာရမယ်ထင်တယ်"

"ရပါတယ်၊ မပူပါနဲ့၊ ကျွန်တော်ကူရှာပါ့မယ်၊ ဒါနဲ့"

သူမကို ငေးကြည့်သည်။ သူကသာ ရက်ကိုးရှက်ကန်း မျက်နှာနဲ့

"နှစ်ယောက်တည်း သွားရမှာဆိုတော့ မကြောက်ဘူးလား"

သူမ မျက်လုံးဝိုင်းသွားသည်။ ပြီးမှ

"ဟင် ဘာကြောက်စရာရှိလို့လဲ"

ထိုတော့မှ အောင်သူရိန် တကယ်ရှက်သွားပြီး

"ဟယ် ဟုတ်ပါရဲ့၊ ဘာတွေမေးမိနေမှန်း မသိဘူး၊ ရှက်လိုက်တာ၊ ဟီးဟီး၊ ကျွန်တော်ကလေ ကျွန်တော်နဲ့ နှစ်ယောက်တည်း

ဟယ် ဟုတ်ပါရဲ့
ဘာတွေမေးမိနေမှန်း
မသိဘူး ရှက်လိုက်တာ၊
ဟီးဟီး
ကျွန်တော်ကလေ
ကျွန်တော်နဲ့
နှစ်ယောက်တည်း
သွားမှာဆိုတော့ ရှက်များ

သွားမှာဆိုတော့ ရှက်များ၊ အဲ ကြောက်များနေလားလို့၊ အဟတ် အဟတ် မေးမိတာ ရှက်ဖို့တောင်ကောင်းသေး၊ ဟီ"

သူမက အရှက်သည်း၍ လက်သည်းခွာနေသော အောင်သူရိန်ကို ငေးကြည့်နေသည်။

အတန်ကြာမှ

"တစ်ခုပဲ စိုးရိမ်မိတယ်"

"ဘာလဲ၊ ဘာလဲဟင်"

သူမသက်ပြင်းချရင်း

"အဲဒီအထိတော့ အမှုတွဲ မဖြစ်ပါစေနဲ့လို့"

"ဟီးဟီးဟီး"

အောင်သူရိန် သဘောကျသွား၏။

သူ့စိတ်ထဲတွင် သူများ စဉ်းစားသလိုမဟုတ်။

ထိုမျှ အဝေးထိ လက်မှတ်လိုက်ထိုးရလျှင်မဆိုး။

သို့သော် နှုတ်က

"ဟီးဟီး စိတ်ချပါ၊ ဘာအမှုအခင်းမှ မဖြစ်စေရဘူး ကတိ"

သူမပြုံးနေသည်။ အောင်သူရိန်ကပါ အထွန့်တက်၍

"ဒါပေမယ့် ကတိပေးရမယ်"

သူမ မျက်လုံးဝိုင်းသွားသည်။

"ဘာကိုလဲဟင်"

အောင်သူရိန်က ပြုံးပြီးရင်းပြုံးရင်း

"မနက်ဖြန်ညနေ၊ ရွာကို လိုက်ခွင့်ပြုမယ်လို့ ကတိပေး"

သူမက ပြုံး၍ ခေါင်းမော့ပြီး

"ညာပေါင်"

"ညာပေါင်တင် မရဘူး၊ ဘယ်ပေါင်ပါ ပေးရမယ်၊ နှစ်ချောင်းလုံး"

"ဘာ"

"ဟယ် ယောင်လို့ ယောင်လို့ ညာပေါင်ပဲ ဟီးဟီး"

ရာသီဥတုသာယာပါသည်။

ဤသို့ဖြင့်. .

× × ×

## အမှတ် ၈၅

ကိုယ်ချစ်သူနှင့် ကားတစ်စီးထဲ နှစ်ယောက်တည်း ခရီးထွက်သည့်အတွေ့အကြုံ ကြုံဖူးပါသလား။

ဖြတ်သန်းသွားလာနေသော ကား၏အရှိန်ကြောင့် လွင့်ပျံနေသော ချစ်သူ၏ ဆံနွယ်စသည် ကဗျာတစ်ပုဒ် ဖြစ်ပါသည်။

"ကားကို သိပ်မြန်မြန် မမောင်းနဲ့နော်"

ချစ်သူ၏ တားမြစ်သံက နားဝင်ကို ချိုစေပါသည်။ သို့သော် ကားတစ်စီးစီးက ကိုယ့်ကို ကျော်သွားတိုင်း

"အောင်မာ၊ ငါ့ကိုတောင်ကျော်သွားသေး"

ဆိုသော အစွမ်းပြချင်သည့်စိတ်နှင့် ကြိတ်၍ကလည်း လိုက်လိုတ်ချင်သေး၏။

"အရှိန်လျှော့ပါ၊ နောက်ကျလဲ ဘာမှမဖြစ်ဘူး"

ဆိုသော တားမြစ်သံက မောင်းလာသောကားပင် ပန်းရထားအသွင် ဖြစ်စေပြန်ပါသည်။

ပြောစရာစကားသည်လည်း ဘာမှမယ်မယ်ရရမရှိပါဘဲ ကြည်နူးနေရတာကိုက ဝမ်းသာလုံးဆို့စရာ။

"နွေခင်းပိုင်းက ဘာလို့မသွားတာလဲ မြိုင်"

သူမဝေ့ကြည့်ရင်း

"နေ့ခင်းပိုင်းက အမျိုးတွေဆီလှည့်ပတ်ပြီး ငွေဝင်ယူရသေးတယ်လေ၊ နောက် ရွာကဦးကြီးက နေ့ခင်းလယ်ထဲဆင်းနေတော့ စောရောက်လဲ စောင့်နေရတာနဲ့ ဘာမှမထူးဘူး"

"ဪ"

ညနေခင်းမှ ရွာဆင်းရခြင်းအကြောင်းရင်း သိရသည်။

"တစ်နှစ်တစ်ခါ ပိုက်ဆံကောက်ပြီး ဦးကြီးကို ရင်းစားပြန်ပေးထားတာ၊ ဆောင်းတွင်းဆို ပြန်သိမ်း၊ မိုးဦးဆိုပြန်ချပေါ့၊ တစ်နှစ်လုံးလည်နေတာ"

စိုက်ပျိုးရေးမျိုးနွယ်ဖြစ်ကြောင်း သိလိုက်ရသည်။ ထို့ကြောင့်

"အပင်စိုက်တာလား"

"ဟင့်အင်း"

လွဲပြန်ပြီ။

"ပဲစပါးလှောင်တာ"

"ဪ"

"စိုက်တာက နည်းပါတယ်"

နေဝန်းက တဖြည်းဖြည်း ကမ္ဘာအပြင်ဖက် ရောက်ချေပြီ။

သတိတရပင် ကားမီးကို ဖျတ်ခနဲ ဖွင့်လိုက်ရသည်။

“ခါတိုင်းရော ဘယ်လို သွားလဲ”

“ပြီးခဲ့တဲ့အခေါက်အထိ အတူလုပ်တဲ့ အစ်ကိုဝမ်းကွဲလိုက်ပို့တယ်၊ အခု သူက နိုင်ငံခြားသွားလို့”

“ဒါဆို နောက်တစ်ခေါက် ဆိုရင်ရော”

သူမငေးကြည့်ရင်း

“အဘွားက ကားဝယ်ဖို့ တော့ပြောတယ်၊ ဒါပေမယ့် မမောင်းရဲလို့”

“ဟုတ်တယ်၊ ဟုတ်တယ်၊ ကားက မမောင်းတာ အကောင်းဆုံး”

“အဲ ရှေ့မှာကွေ့မယ်”

“ဗျာ ဟုတ်ကဲ့ ဟုတ်ကဲ့”

ဘာလိုလိုနှင့် မှော်ဘီမြို့ ထွက်လာတာကို သတိမထားမိ။

“လမ်းက နည်းနည်းကြမ်းတယ်”

“ရပါတယ်”

မှန်ပေသည်။ လမ်းက

လမ်းက ဆိုင်ကယ်တစ်စီး သွားရုံမျှသာကောင်း၏။ ထိုလမ်းကို ကားနှင့် သွားရသည်ဆိုတော့ လူတွေက ကားပေါ်မှာ မရှိ။

မြေနီလမ်းဆိုတော့ အနည်းငယ်မဟုတ်။ အတော်ကိုကြမ်းသည်။

"ကားမပါရင် ဒီထိပ်က ဆိုင်ကယ်ကယ်ရီနဲ့ သွားရတာ"

သူမသည် အလွန်ဖော်ရွေသူတစ်ယောက်ဖြစ်မှန်း သိရသည်။

မှန်ပေသည်။

လမ်းက ဆိုင်ကယ်တစ်စီး သွားရုံမျှသာကောင်း၏။ ထိုလမ်းကို ကားနှင့်သွားရသည်ဆိုတော့ လူတွေက ကားပေါ်မှာ မရှိ။

လူပျံတော်ပတ္တမြားကြော်ငြာ ဒီလမ်းပေါ်မှာပင် ရိုက်လို့ရပေလိမ့်မည်။ လူက လေပေါ်အမြဲပျံနေရ၍ဖြစ်သည်။

"ရှေ့လမ်းကနေချိုးလိုက်၊ ဟိုးမှာ ရွာကို ပျပျလေးမြင်နေရပြီ"

မှန်ပေသည်။

သူညွှန်ပြရာ၌ မှုံပျပျမီးရောင်ကို မြင်နေရပေပြီ။

"ကားကိုထိန်းမောင်းနော်၊ တော်ကြာ ဘေးနားကချောက်ထဲ ကျသွားလိမ့်မယ်"

"စိတ်ချပါ၊ ဘာမှမဖြစ်စေရပါဘူး"

ပြောမယ့်သာပြောရတာ။ တကယ်လဲ ကားကို မနည်းထိန်းမောင်းနေရသည်။

"အဲဒီနားမှာ ခုံကြီးတစ်ခုရှိတယ်၊ သတိထား"

"ဘယ်တွေ့ရမှာလဲ"

"ညာ ညာ ညာတွေ့"

သူပြောသည့်အတိုင်း တသွေမသိမ်း လိုက်နာနေရသည်။

"ရွာထဲရောက်ရင်တော့ လမ်းကောင်းပါပြီ၊ အဲ မြောင်းတွေတော့ရှိတယ်၊ သတိထား၊ နောက်ပြီး လမ်းလဲကျဉ်းတယ်"

စကားတွေ တရစပ်ပြောပေးနေတာကိုက အလိုလိုနေ့ရင်းကျေးဇူးတင်နေမိသည်။

"ဟော ရှာအဝင်လမ်း ရောက်ပြီ၊ ထိန်းမောင်းတော့"

မှန်ပေသည်။ ရွာအဝင်လမ်းက မြေနီလမ်းပင်ဖြစ်သော်ငြား အနည်းငယ်အဆင်ပြေသလို။ သို့သော် မီးရောင်က အားနည်းလှသည်မို့ လမ်းကိုမနည်းရှာနေရသည်။ ဘယ်နေရာက လမ်း၊ ဘယ်နေရာက မြောင်းမှန်းမသိ။

"လမ်းအလည်ကပဲ မောင်း၊ အဲ ဟိုးအရှေ့ကျရင် ဘေးကပ်လိုက်၊ ဘေးနားကျအောင်ကပ်နော်၊ လမ်းက ကားနှစ်စီးမလွတ်မှာစိုးလို့"

"စိတ်ချပါ၊ အမှုမဖြစ်စေရပါဘူး"

သူမပြုံးပါသည်။

"ရပြီ၊ ရပြီ၊ အဲဒီရှေ့ပဲ၊ လမ်းဘေးကျအောင် ချရပ်နော်"

"အင်းပါ၊ စိတ်ချပါ"

သူမပြောသည့်နေရာ၌ နံဘေးအကပ်နိုင်ဆုံး လမ်းချရပ်လိုက်သည်။

"ရပြီ၊ အရင်ဆင်းနှင့်လိုက်၊ ကားကို လော့(ခ်)ချရအောင်"

ချက်ချင်း
သော်နှယ်ဖြစ်သွားသည်၊
ကိုယ့်မြို့ကိုယ့်ရွာလဲ
မဟုတ်ဘဲ
ရုတ်ခြည်း
ပျောက်ဆုံးသွားသည်ကို။

"အင်း အင်း"

သူမ ကားတံခါးဖွင့်၍ ဆင်းချသွားသည်။

"အောင်မလေး"

သူမ၏ အာမေဍိတ်သံ။

"ဟင် မြိုင် မြိုင် ဘာဖြစ်လို့လဲ"

ကားသော့ကို အလျင်အမြန်ဖြုတ်၍ ကားပေါ်မှ ကမန်းကတန်း ဆင်းလိုက်မိသည်။

"မြိုင် ဟင် ဘယ်ရောက်သွားတာလဲ"

ကားတစ်ဖက်မှမြိုင်ကို မမြင်ရ။ ချက်ချင်းပင် စိုးရိမ်သွားမိသည်။

အခုပဲ ကားပေါ်ကဆင်း၊ အခုပင်ပျောက်သွားသည် မဟုတ်လား။

ထို့ကြောင့်

"မြိုင် မြိုင်ဘယ်ရောက်သွားတာလဲ၊ ဘယ်ရောက်သွားတာလဲ မြိုင်၊ မြိုင်"

ကားအနောက်ဖက် ပြေးကြည့်မိသည်။ ဘယ်မှာမှမတွေ့တော့။ ညက မှောင်နေပြီမို့ ဘာမှမသဲကွဲ။

ချက်ချင်းခေါင်းနပန်းကြီးသွားသည်။ ကိုယ့်မြို့ကိုယ့်ရွာလဲ မဟုတ်ဘဲ ရုတ်ခြည်းပျောက်ဆုံးသွားသည်ကိုး။

ထို့ကြောင့် မျက်လုံးပြူးပြီး

"ဟင် မြိုင် မြိုင်ဘယ်မှာလဲ"

ကမန်းကတန်း အရှေ့ဖက်ပြေးပြီး ပြန်ငုံ့ကြည့်မိသည်။

"မြိုင် မြိုင်၊ ဘယ်ရောက်သွားလဲမြိုင်"

"ဟာ"

မြင်လိုက်ရသောမြင်ကွင်းတစ်ခုကြောင့် ရုတ်ခြည်း ကြက်သေ,

သေသွားသည်။

“ဟင် ဟင် ဘာ ဘာကြီး လဲ၊ ဘာကြီးလဲ”

မြောင်းထဲက ကုန်းထလာသော အရိပ်တစ်ခု။ တစ်ကိုယ်လုံးမဲပြီး ဆံပင်ဖားလျားကြီးနှင့် ရေတွေလဲရွှဲလို့။

ချက်ချင်းပင် ကြက်သီးများထလာ၏။

ထိုမဲမဲကြီးလက်က သူ့ဆီလှမ်းလာသည်။ တစ်ကိုယ်လုံး ကြက်သီးဖျန်းသွားပြီး

“အား”

ကြောက်လန့်တကြား သံကုန်ခြစ်အော်မိသည်။ လရောင်မှိန်မှိန်မှာ ဆံပင်ဖားလျားနှင့် ထိုအရိပ်ကြီးက သွေးပျက်စရာ။

“ဟင်း ဟင်း”

ငြီးငြူသံ။

သူ ဘယ်လိုမှ မနေနိုင်တော့။

“အား သ သရဲ အား”

တုန်ယင်စွာ သံကုန်ခြစ်အော်ရင်း အသိစိတ်တစ်ခု ခေါင်းထဲတိုးဝင်လာ၏။

ကြောက်လန့်တကြား
သံကုန်ခြစ်အော်ရင်း
ခြေဦးတည့်ရာ
လှည့်ပြေးမိသည်။
ဘာကိုမှ
သတိမရတော့။

"သ. . ရဲ၊ သရဲ အား သရဲပါဗျို့၊ အား ပြေးပြီဗျ၊ သရဲ အား"

ကြောက်လန့်တကြား သံကုန်ခြစ်အော်ရင်း ခြေဦးတည့်ရာ လှည့်ပြေးမိသည်။ ဘာကိုမှ သတိမရတော့။

"သရဲဗျို့ သရဲ အား"

"သရဲဗျို့ သရဲ အား"

ညယံစပ်စပ်မှာ အထက်ပါအော်သံကြီးကြားတော့ ငြိမ်သက်စပြုနေသော ရွာကလေးကို လှုပ်နှိုးလိုက်သလို ဖြစ်နေသည်။

"ဟေ့ ဘာတွေအော်နေတာလဲဟေ့"

"ဟဲ့ သရဲ၊ သရဲတဲ့ သရဲတဲ့"

"ဘယ်မှာလဲ သရဲ၊ ဘယ်နားမှာလဲ ထွက်ဖမ်းစမ်း"

"တုတ်တွေ ဓားတွေ ယူခဲ့ ဟေ့၊ ဆရာတော်ကို အကြောင်းကြား"

စသည်ဖြင့် ရွာလူများ လှုပ်လှုပ်ရွရွနှင့် ဆင်းချလာကြ၏။

"ကယ် ကယ်ကြပါဦး၊ သရဲ သရဲပါဗျ"

အောင်သူရိန်က သွေးပျက်မတတ် ပြေးလွှားဆဲ။

"ဟေ့ ဟေ့ အော်နေတာ ဟိုကောင်ပဲ၊ ဝိုင်းဖမ်းစမ်း"

"အေး မိအောင်ဖမ်းကွ၊ ဒါမှ သရဲတွေ့မှာ"

ဆိုကာ အားကောင်းမောင်းသန် ဆယ်ယောက်ခန့် ဝိုင်းဖမ်းတော့

"သရဲ သရဲ လုပ်ကြပါဦး မဲမဲကြီး ရေတွေရွှဲလို့ အား"

မျက်ဖြူတွေလန်ပြီး တက်မလိုဖြစ်နေသေး၏။

လူကြီးလေးငါးယောက်ဖမ်းချုပ်ပြီး ကုတ်နှိပ်ထားတော့မှ

"ကြောက်တယ်၊ ကြောက် တယ်၊ သရဲ"

ဆိုကာ ငြိမ်ကျသွားသည်။

ဒါတောင် မျက်နှာကြီးဖြူရော်ကာ နှုတ်မှလဲ

"သရဲ သရဲ လုပ် လုပ်ကြ
ပါဦးသရဲ"

ခန္ဓာကိုယ်တစ်ခုလုံးလဲ
တုန်ယင်ကာ မျက်လုံးကလယ်
ကလယ် ဖြစ်နေသေးသည်။

"ဟော့ ဟော့ ရေတစ်ခွက်
လောက် ခပ်တိုက်လိုက်စမ်း၊ စိတ်
ငြိမ်သွားအောင်"

ရေတစ်ခွက်သောက်ချ
လိုက်မှ အနည်းငယ်တည်ငြိမ်မှု
ရ၏။

"ဘာဖြစ်လို့လဲ ကောင်
လေး၊ ဘာတွေ့လို့လဲ"

လူကြီးတစ်ယောက် အမေး
ကြောင့် ကြောက်စိတ်ဖျဉ်းခနဲ ပြန်
ဖြစ်ကာ

"သရဲ သရဲဗျ သရဲ
ဟီးဟီး"

ကြောက်စိတ်ကြောင့် ပြန်
တုန်တက်နေသည်။ ရွာလူများက

"သရဲ ဟုတ်လား၊ ဘယ်
မှာလဲ သရဲက"

အောင်သူရိန် အားလုံးကို
ပြန်ဝေ့ကြည့်ပြီး

"ကျွန်တော့် ကျွန်တော့်

ခုန ခုနက
ကားဆောက်နေ
ကုန်းကုန်းကြီး
တက်လာတာဗျ
မဲမဲကြီး
ဆံပင်ဖားလျားနဲ့
ရေတွေလဲရွှဲနေတာ

ကားနားမှာဗျ၊ ဟီးဟီး"

အားလုံး တစ်ယောက်မျက်နှာ တစ်ယောက်ကြည့်ကြပြီး

"ဟော့ သူ့ကားနားမှာတဲ့ဟော့၊ သူ့ကားနားသွားရအောင်"

"ကားကိုတွေ့ရင် မလွတ်အောင် ဝိုင်းထားကြဟေ့"

ဆိုကာ ကားဆီ အတင်းဆွဲခေါ်ကြသည်။ ဒါကိုတောင်

"ကျွန်တော်ကြောက်တယ်၊ ကျွန်တော် ကျွန်တော်ကြောက်တယ်"

အတင်းရုန်းကန်ရင်း လိုက်ပါလာရသည်။

ကားနားရောက်တော့

"ဘယ်မှာလဲ သရဲ"

"ဘာမှလဲ မတွေ့ပါလား"

ကားက လမ်းဘေးတွင် ထီးထီးကြီး။ ဘာထူးခြားမှုမှမရှိ။

"ဘယ်မှာလဲကွ၊ ဘာမှလဲ မတွေ့ပါဘူး"

လူကြီးတစ်ယောက်အမေးကို အောင်သူရိန်က ကတုန်ကယင်ဖြင့်

"ခုန ခုနက ကားဘေးကနေ ကုန်းကုန်းကြီးတက်လာတာဗျ၊ မဲမဲကြီး ဆံပင်ဖားလျားနဲ့၊ ရေတွေလဲရွှဲနေတာ"

အားလုံးဝေ့ကြည့်ကြသည်။ ဘာမှမတွေ့။

"မရှိပါဘူးကွ၊ ဒီကောင်က တမင်ရှာဆူအောင် လုပ်တာဖြစ်မယ်"

"ဟုတ်တယ်၊ ရွာကို တမင်လာခြောက်နေတာ"

သူတို့၏စကားများကို အောင်သူရိန်က

"မဟုတ် မဟုတ်ဘူးဗျ၊ တကယ်တွေ့တာ၊ ကား ကားထဲဝင်နေလား မသိဘူး"

သူ့စကားမဆုံးလိုက်။ ကားတံခါးဖွင့်သံ ချောက်ခနဲကြားရ

သည်။

"ဟာ"

"ဟင်"

အားလုံးကြောင်ကုန်၏။

နောက်

"ကျွိ"

ကားတံခါးဖွင့်သံ။ အားလုံး ကားဆီ အာရုံရောက်ကုန်၏။

"ဟာ"

အာမေဋိတ်သံ ပြိုင်တူ ထွက်လာ၏။

ကားပေါ်မှ ဆင်းလာသော အရိပ်တစ်ခု။

"ဟာ မဲမဲကြီး"

"ဆံပင်ဖားလျားကြီးနဲ့"

"ဟာ တကယ် တကယ် သရဲဟ၊ တကယ်သရဲ"

အားလုံး ထွက်ပြေးရမလို၊ ပြေးရိုက်ရမလိုနှင့် လှုပ်လှုပ်ရွရွ ဖြစ်ကုန်၏။

ညမှောင်မှောင် လရောင်အောက်တွင် ဆံပင်ရှည်ဖိုးရိုးဖားလျားနှင့် လူမဲမဲကြီးက အောင်သူရိန်ပြောသည့်အတိုင်း ရေတွေလဲ ရွဲနေ၍ အားလုံးအတွက် ချောက်

ကားက
မြောင်းနှုတ်ခမ်းစပ်၌
ရပ်ထား၍
ကားပေါ်မှဆင်းသည်နှင့်
ခြေလှမ်းလက်လှမ်း
မြောင်းထဲ တိုက်ရိုက်
ကျသွားဟန်ရသည်။

ချားစရာ ဖြစ်နေသည်။

လူတွေက ထွက်ပဲပြေးရ မလို၊ ရပ်ပဲကြည့်ရမလိုနှင့် ကြောင်နေကြ၏။ ထိုမဲမဲကြီးမှ ချောက်ချားဖွယ်ပင် လက်ဆန့်တန်းပြီး

"ကိုအောင်သူရိန်"

"ဟာ"

စကားသံ ထွက်လာတော့ အားလုံးအံ့အားသင့်သွားသည်။ အောင်သူရိန်မှာ တုန်တက်ပြီး နေစရာနေရာ မရှိတော့။ လူမဲမဲကြီးမှ ရေတွေလဲ တစက်စက်နှင့် ကျနေသေးသည်။

"သရဲ သရဲက ကျွန်တော့် နာမည်ခေါ်တယ်၊ ကျွန်တော့်နာမည် ခေါ်တယ်"

အတင်းရုန်းကန်နေ၍ အားလုံးက အောင်သူရိန်ထွက်မပြေးနိုင်အောင် ကုတ်မှဆွဲထား၏။

ခြေနှစ်ဖက်သာ မြေမှာယက်နေရရှာ၏။

"ကိုအောင်သူရိန် ဒီနားလာခဲ့"

"အောင်မလေး လုပ်ကြပါဦး၊ သရဲ သရဲက ကျုပ်ကိုခေါ်တယ်ဗျ၊ ကျုပ်ကိုခေါ်တယ်"

အားလုံးက အောင်သူရိန်ကို တွန်းလွှတ်ရမလား၊ ဆက်ဆွဲရမလားမသိ ဖြစ်နေသည်။

အောင်သူရိန်ကသာ တုန်တက်ပြီး

"အောင်မလေး ခင်ဗျား ခင်ဗျားက ကျုပ်ကိုသိတယ်၊ ခင်ဗျားဘယ်သူလဲ၊ ဘယ်ကလဲ"

သူ့အမေးကို အရိပ်မဲကြီးက

"မြိုင်ပါ"

"ဟင်"

ထိုစကားကြားတော့ အောင်သူရိန် ငြိမ်ကျသွားသည်။

နောက်မှ ပြန်တုန်တက်သွားပြီး

"ဟင် မြိုင် မြိုင်၊ ဘယ်တုန်းက ဆုံးသွားတာလဲဟင်၊ ဘယ်တုန်းကဆုံးသွားတာလဲ"

သူ့အမေးကို ဟိုကလဲ

"မြိုင် မဆုံးပါဘူး"

အောင်သူရိန် မျက်လုံးပြူးသွားသည်။

"ဟင် မဆုံးဘဲနဲ့ ဘယ့်နှယ် ဒီပုံဖြစ်နေရတာလဲ"

"ကိုအောင်သူရိန်ပဲ ကားကို မြောင်းဘေးရပ်ပြီးတော့"

"ဟာ"

ထိုတော့မှ အောင်သူရိန် ကားဘေးဆင်းကြည့်မိသည်။

"ဟင်"

မှန်ပေသည်။

ကားက မြောင်းနှုတ်ခမ်းစပ်၌ ရပ်ထား၍ ကားပေါ်မှဆင်းသည်နှင့် ခြေလှမ်းလက်လှမ်း မြောင်းထဲတိုက်ရိုက် ကျသွားပုံရသည်။

ထို့ကြောင့် ရုတ်တရက်ပျောက်သွားပြီး ထိုပုံကြီးနှင့် မြောင်းထဲက ပြန်ကုတ်တက်လာတော့ သရဲဟုထင်သွားရပုံရ၏။

ထိုတော့မှ သတိရပြီး

"ဟင် မြိုင် မြိုင်ပါနော်"

ဆိုကာ အနားကပ်သွားမိသည်။

မှန်ပေသည်။

ဗွက်တွေ ရေတွေနှင့် ရွှဲနစ်နေသော ချစ်သူမြိုင်။ သူမခမျာ မျက်နှာလဲမကောင်း။

ထိုတော့မှ ရွာမှလူများလဲ သဘောပေါက်ပြီး

"ဟာ ဒီကောင်တော့ကွာ၊ ကိုယ်နဲ့ပါလာသူကို မြောင်းထဲကျအောင်လုပ်ပြီး သရဲဆိုပြီး ရွာထဲလျှောက်အော်တယ်"

"ဟုတ်ပါ့ကွာ၊ တမင်သက်သက် ရွာဆူအောင်လုပ်တယ်"

"အေးလေ၊ ဆရာတော်တောင် ပရိတ်ရွတ်ဖို့ ကြွလာပြီ"

"ဒီလောက် ရွာပျက်အောင်လုပ်တာ၊ ဒီအတိုင်းတော့ ပြန်မလွှတ်နဲ့"

"ဒါဖြင့် ဘယ်လိုလုပ်ရမှာလဲ"

"ခံဝန်ထိုးခိုင်းကွာ"

"ဟင် ခံဝန်"

"ခံဝန်"

ဤသို့ဖြင့်. . .

ညမှောင်မှောင်၌ ဖယောင်းတိုင်မီးမှိန်မှိန် အောက် ချစ်သူကို မြင်နေရတာကိုက ရင်ဖိုစရာ။

ဖယောင်းတိုင်အလင်းရောင်က ရေချိုးပြီးစ ချစ်သူ၏ဆံနွယ်စများကြားက ချစ်စဖွယ်မျက်နှာလေးကို မထိတထိလေး လင်းပေးရှာသည်။

နဂိုအရောင်အဆင်းကိုက ဝင်းပပလေးမို့ ဖယောင်းတိုင် အလင်းရောင်က ပို၍ဝင်းပအောင် ပံ့ပိုး ပေးနေသလို။

"ဒါကြောင့် နိုင်ငံခြားမှာ ဖယောင်းတိုင်နှင့် ညစာစားပွဲက ပိုဈေးကြီးတာ"

အလိုလိုနေရင်း ပီတိဖြစ်နေမိသည်။ မှန်ပေသည်။ ဖယောင်းတိုင်နှင့် ညစာစားပွဲက အဆင်သင့်ဖြစ်နေပြီကို။

ဖြစ်ပုံက ဤနှယ် အဆင်သင့်ဖြစ်စေခြင်းဖြစ်၏။

ညကလဲမှောင်။ မြိုင်ကလဲ မြောင်းထဲကျထား၍ ရေပြန်ချိုးနေရသည်တစ်ကြောင်း။ မနက်လင်းလျှင် ရပ်ကွက်ရုံး၌ ရှာဆူပူမှု ဖြစ်စေသောကြောင့် ခံဝန်ထိုးရမည်တစ်ကြောင်းတို့ကြောင့် ရန်ကုန်သို့ ညတွင်းချင်းမပြန်ဖြစ်တော့ခြင်းဖြစ်၏။

ပြန်လို့လဲလွယ်တော့မည်မဟုတ်။ သိပ်မမှောင်ခင်မှာပင် ရွာလမ်း၌ လူပျံတော်ပတ္တမြား ဖြစ်ခဲ့သည်ကို။ ဤသို့ ညနက်နက်၌ဆို ရွာလမ်း၌ စူပါမင်းနှင့် စူပါဂဲ(လ်)ဖြစ်သွားနိုင်သည်။

ထို့ကြောင့် ရွာမှမပြန်တော့ဘဲ ရွာ၌ရှိသော မြိုင်တို့ဦးလေးအိမ်၌ တစ်ညတာ တည်းခိုဖြစ်ကြခြင်းဖြစ်၏။

ဖြစ်ချင်တော့ မြိုင်ရဲ့ဦးလေးကလဲ စပါးလှောင်ထားသောဂိုဒေါင်၌ အစောင့်မရှိ၍ သွားပြန်အိပ်ရချိန်။

စဉ်းစားသာကြည့်။ သရဲကလဲကြောက်၍ နှစ်ယောက်ခွဲမအိပ်ရဲ။

ဖယောင်းတိုင်မှုံပျပျနှင့် ညစာစားပွဲကြီး။

အိမ်တစ်လုံးထဲ၌ အခန်းကတစ်ခန်းထဲ။ အိပ်ရာကလဲ တစ်ခုတည်း။ ထိုအိပ်ရာကလဲ တစ်ယောက်အိပ် အိပ်ရာ။

မည်သူမှ ညလုံးပေါက် ငုတ်တုတ်ထိုင်မည်မဟုတ်။

အမှုဖြစ်ကိုဖြစ်ရမည်။

ဤသို့ဖြင့်. .

× × ×

ညကလဲနက်နေပြီ။ အိပ်ရာတစ်ခုဘေး သူတို့နှစ်ယောက် ငုတ်တုတ်ထိုင်နေမိကြသည်။

မြိုင်ကတော့ ရေချိုးပြီးစ သူ့ဆံနွယ်စများကို အကြောင်းမဲ့ ပွတ်သပ်နေသည်။

အောင်သူရိန်ကတော့ ရင်ခုန်သံတဒိတ်ဒိတ်နှင့် လက်ညှိုးကလေးနှင့် ကြမ်းပြင်၌ ဘာတွေလျှောက်ရေးနေမိမှန်းမသိ။ သူ့ခမျာလဲ ရင်ခုန်လွန်းလို့သာ လုပ်နေရတာ။ ကိုယ်တိုင်ဘာလုပ်မိလို့ လုပ်မိမှန်းပင်မသိ။

ညကား တဖြည်းဖြည်း ပိုနက်လာလေပြီ။

မြိုင်သက်ပြင်းချသည်။ အောင်သူရိန်ကတော့ ကြမ်းပြင်ပေါ် အရုပ်ရေးကောင်းဆဲ။

"တစ်ခုမေးစရာရှိလို့"

မြိုင်၏တိုးညှင်းသောအသံ။ အောင်သူရိန် ခေါင်းထောင်လာသည်။

"မေးလေ၊ ဘာမေးမလို့လဲမြိုင်"

မြိုင်က သူ့ကိုစေ့စေ့စောင်းကြည့်သည်။

"ကိုအောင်သူရိန် မြိုင့်ကိုချစ်နေတာလားဟင်"

ထိုစကားကြားမှ ရင်ခုန်သံက ပေါက်ထွက်မတတ် ဆူညံသွားသည်။ စိတ်လှုပ်ရှားခြင်းကြီးစွာ ကြမ်းပေါ်ချထားသောလက်ညှိုး၊ အသည်းပုံများစိုက် ခပ်ကြမ်းကြမ်းခြစ်မိကာ. .

"ချစ် ချစ်တာပေါ့ မြိုင်ရယ်၊ ဘယ့်နှယ်ပြောလိုက်တာလဲ၊ အရမ်းချစ် ခစ်၊ အဲလိုပြောရတာ ရှက်လိုက်တာ ဟီးဟီးဟီး အဟု အဟု"

ပြောပြီး အားနေသောလက်တစ်ဖက် အာခေါင်ထဲထည့်၍ ရှက်မိနေသေးသည်။

မြိုင်က သက်ပြင်းထပ်ချပြီး

"တကယ်ချစ်တယ်ဆိုရင် ချစ်သူဘဝမရောက်ခင်မှာ စည်းစောင့်သင့်တယ်ထင်တယ်"

မြိုင့်စကားကြောင့် အောင်သူရိန် ရှိုစုမဲ့စုမျက်ခုံး မြင့်တက်သွားပြီး

"ကျွန်တော် ကျွန်တော် ဘယ်မှာစည်းဖောက်မိလို့လဲဟင်"

မြိုင်က ရှက်ပြုံးပြုံးရင်း

"အခုတော့ မဟုတ်သေးဘူးလေ၊ ဒါပေမယ့်"

မြိုင်က ရှက်ရွံ့စွာပြုံးရင်း ခေါင်းငုံ့ကာ

"ခဏနေရင် ဒီနှစ်ယောက်က ဘယ်သူမှမရှိတဲ့ အိမ်တစ်လုံးမှာ အိပ်ရာတစ်ခုထဲမှာ နှစ်ယောက်တည်း အတူအိပ်ကြရမှာ"

"ဂလု"

အောင်သူရိန် တံတွေးမျိုချသံကပင် အတော်ကျယ်နေ၏။

"အဲ အဲဒီတော့ကျရင် စည်းကို"

သူမစကားမဆုံးလိုက်၊ အောင်သူရိန်က

"စည်းမစောင့်လို့ မရဘူးလားဟင်"

သူမမျက်နှာ တစ်မျိုးဖြစ်သွားပြီး

"အဲဒါဆိုရင်တော့"

အောင်သူရိန် ပြန်ပြုံးလိုက်ပြီး

"စိတ်၊ စိတ်ချပါ၊ ကျွန် ကျွန်တော် စည်းစောင့်နိုင်ပါတယ်မြိုင်"

မြိုင် သက်ပြင်းချသည်။ နောက်မှ

"ဒါဆိုလဲ ပြီးတာပဲလေ"

ဆိုကာ အိပ်ရာအလည်

မြိုင်က
စည်းတစ်ဖက်မှာ
အိပ်သည်။
အောင်သူရိန်
ငုံ့ကြည့်နေရင်းမှာပင်
စည်းကလေးက
မှိန်ပြီးပြန်ပျောက်သွားသလို။

တည့်တည့်ကို သူမလက်သည်းခွံလေးနဲ့ ခြစ်ကာ

"ဒီစည်းလေးကိုတော့ သတိထားပေးပါ"

အောင်သူရိန် ငုံ့ကြည့်သည်။ စည်းလေးက အိပ်ရာပေါ်ထင်ရုံသာ။

"မြိုင်အိပ်တော့မယ်နော်"

"ဟုတ် ဟုတ်ကဲ့"

မြိုင်က စည်းတစ်ဖက်မှာအိပ်သည်။ အောင်သူရိန်ငုံ့ကြည့်နေရင်းမှာပင် စည်းကလေးက မှိန်ပြီးပြန်ပျောက်သွားသလို။

အောင်သူရိန် ငုတ်တုတ်ထိုင်နေဆဲ။

ဤသို့ဖြင့်. .

× × ×

အောင်သူရိန် ငုတ်တုတ်ထိုင်နေဆဲ။

အိပ်ရာပေါ် ဘာစည်းမှ မရှိတော့။

ဆံပင်ဖရိုဖရဲနှင့် ကပိုကယို အိပ်စက်နေသော ချစ်သူအလှက စည်းကျော်ချင်စရာ။ ပစ်ရမှာလဲ အဆီတဝင်းဝင်းမို့ အောင်သူရိန် စည်းကျော်မိချင်သည်။

အိပ်ရာခင်းပေါ် ချထားသော လက်ညှိုးကလေး ရွှေ့ထုတ်လိုက်သည်။ မရှိတော့သော စည်းကလေးကို တို့ကြည့်သည်။

လက်ညှိုးမှတစ်ဆင့် လူတစ်ကိုယ်လုံး ဓာတ်လိုက်

သွားသလို ကတုန်ကယင်နှင့် ကိုယ့်ခေါင်းကိုယ် ပြန်အုပ်ကိုင်လိုက်မိသည်။

အကြာကြီး ပြန်စိုက်ကြည့်သည်။

မျက်နှာကလေးက ဘယ်လိုဖြစ်ဖြစ် စည်းကျော်ချင်စရာ။

မျက်နှာကိုကွယ်နေသော ဆံနွယ်စများကို သပ်ဖယ်လိုက်ကြည့်ချင်သည်။ စိတ်ကို ဘယ်လိုမှ ထိန်းမရတော့။

လက်က အလိုလိုရွေ့သွားသည်။ စည်းနားအရောက် လက်ကခတ်လိုက်ပြီး တွန်းကန်အားတစ်ခုကြောင့် ပက်လက်လန်လဲကျမတတ်ဖြစ်သွားသည်။

တစ်ကိုယ်လုံး ကတုန်ကယင်နှင့် ဇောချွေးများ အလိုလိုစိမ့်ထွက်လာသည်။

ထွက်လာသောချွေးများကို ခုန အသည်းပုံမြားစိုက်ပုံ ရေးခဲ့သောလက်ညှိုးနှင့် ပင့်ပင့်သပ်လိုက်သည်။

"အတော်ထွက်သွား"

"ဟူး"

ဘာဆက်လုပ်ရမှန်းမသိဘဲ ခေါင်းကိုမော့၍ လေပူတွေမှုတ်ထုတ်နေမိသည်။ နောက် အသက်ကို ခပ်ပြင်းပြင်းရှူပြီး

"အင်းလေ၊ ကိုယ်က တအားကိုချစ်နေပေမယ့်လဲ စည်းတော့မကျော်သင့်ပါဘူး"

စိတ်ကို ဒုံးဒုံးချ၍ ချစ်သူချမှတ်ထားသော (မရှိတော့သော) စည်းဘေး ခွေခွေလေး ဝင်အိပ်လိုက်မိသည်။ ရင်ခုန်သံက တဒုန်းဒုန်း။ ထင်ရာစိုင်းလိုက်ချင်စိတ်ကို မနည်းဘရိတ်အုပ်နေရသည်။

× × ×

## အမှတ် ၁၀၃

ချစ်သူ၏ကိုယ်သင်းနံ့က စိတ်ကို ဂယောက်ဂယက် ဖြစ်စေပါသည်။ ရံဖန်ရံခါ လာထိသော ဝင်သက်ထွက်သက်က ထထိုင်ပြီး ထင်ရာစိုင်းလိုက်ချင်စရာ။

"မဖြစ်သေးပါဘူးလေ၊ မလုပ်ကောင်းပါဘူး"

ဆိုသောအသိစိတ် ချုန်းအုပ်၍ ဘုရားတ,နေရသည်။

ဖြစ်ချင်တော့ ဘုရားစာကလဲ ကောင်းကောင်းမရ၍ စိတ်ထဲရှိရာ ဘုရားအားလုံးတ,၍

"ရွှေတိဂုံဘုရားကယ်တော်မူပါ၊ မဟာမြတ်မုနိ

ကယ်တော်မူပါ၊ ကျိုက်ထီးရိုးဆံတော်ရှင် ကယ်တော်မူပါ၊ ကျောင်းတော်ရာဘုရား ကယ်တော်မူပါ၊ ရှိသမျှဘုရားအားလုံး ကယ်တော်မူပါ"

စသည်ဖြင့် ဘုရားတွေသာ တ,နေရသည်။

မျက်လုံးကိုဖွတ်မှိတ်၍ အံကြိတ်အိပ်လိုက်စဉ်

"ဟင်"

ဖျတ်ခနဲလာကျသော ချစ်သူလက်တစ်ဖက်။

သူစည်းကျော်ပြီ။

ဆံပင်မွေးမှစ၍ ရှိရှိသမျှ အကုန်ထောင်ကုန်၏။ (ခေါင်းအပါအဝင်ပေါ့လေ)

ချက်ချင်း ဘာလုပ်လို့ ဘာကိုင်ရမှန်းမသိ ဖြစ်သွားရသည်။ လုပ်လျှင်လဲ လွန်တော့မည်။

"အိုကွာ သူတောင်စည်းကျော်သေးတာပဲ"

ဆိုသည့်စိတ်နှင့် ဖွတ်အတင်း လှည့်ချင်သွားသည်။ သို့သော်

"မလုပ်နဲ့၊ မလုပ်နဲ့၊ မုန်းသွားမယ်"

ဆိုသောအသိစိတ်က ငယ်ထိပ်လာဆောင့်ပြန်သည်။ ဖြစ်ခြင်းနှင့်မဖြစ်ခြင်းတို့ လွန်ဆွဲနေ၏။ နောက်ဆုံးတော့လဲ

"ဟင်း တစ်သက်လုံးပိုင်ရမယ့်ပစ္စည်းပဲ၊ အခု စိတ်လျှော့လိုက်တာကောင်းပါတယ်"

ဟုတွေးမိပြီး သူမလက်လွတ်ရာ အသာတိုးပေးလိုက်မိသည်။

သူမလက်ကလေးက စည်းကျော်ပြီး ဖျတ်ခနဲ အိပ်ရာပေါ်ပြန်ကျသည်။

သူပြုံးလိုက်မိသည်။

မနက်လင်းလျှင် စည်းမကျော်သော အခွင့်အရေးမယူတတ်သော ယောကျ်ားသား သူ့ကို သူမ အသိအမှတ်ပြုသော မျက်လုံးရွဲ

ကြီးနှင့် စိုက်ကြည့်ခြင်းကို ခံရပေဦးတော့မည်။

"ရှက်လိုက်တာ၊ ဟီဟိ အဲလိုကြည့်ရင်ဖြင့် ရှက်စရာကြီး"

သူ ကြိုတင်ရှက်မိသွားသေးသည်။ နောက် ပေါင်ကြား လက် ညှပ်၍

ဤသို့ဖြင့်. .

× × ×

အိပ်မက်ထဲ၌ သူမနှင့်သူ ကြည်နူးနေ၏။ ပန်းခြံထဲ ပတ်ပြေးတာပါ၏။ ရေကူးကန်ဘေး လမ်းလျှောက်တာပါ၏။ မဆီမဆိုင် ထန်းပင်ပေါ်တက်၍ ကြည်နူးတာလဲပါ၏။

သူမချစ်တာကလဲ တုန်တုန်တက်လောက်အောင်ချစ်၏။ သူ၏မေးဖျားလေး ကိုင်ကိုင်ပြီး သူမပြုံးနေ၏။

အိပ်မက်ထဲ၌တော့ အရာရာ အထင်ကြီးစရာချည်း။

ဤသို့ဖြင့်. .

× × ×

## အမှတ် ၁၀၁



မနက်ခင်းနေရောင်ခြည်က မျက်နှာကို ဖြန်းခနဲ လာစင်သည်။ မျက်လုံးကျိန်းစပ်စပ်ဖြစ်၍ သူလန့်နိုးလာ၏။

အကြောအားလုံးကို 'အီး'ခနဲ ဆွဲဆန့်လိုက်မိသေး၏။ နောက်မှ သတိရပြီး

"ဟာ"

ကမန်းကတန်း မျက်လုံးဖွင့်၍ ထထိုင်လိုက်မိသည်။

နောက် ညက အဖြစ်အပျက်ကို သတိရပြီး

တမန်းကတန်း ဘေးဘီဝေ့ကြည့်မိသည်။

"ဟင်"

အိပ်ရာပေါ်၌ သူမ,မရှိတော့။

မသင်္ကာစိတ်နှင့် အိပ်ရာကို ပြန်ကြည့်မိသည်။ ညက သူမ ချထားသောစည်းလဲ မရှိတော့။ သူကတော့ ညက သူမသတ်မှတ်ထား သောစည်းနှင့် ခပ်ဝေးဝေးရှိဆဲ။

"မြိုင် မြိုင်ရေ"

သူအသံထွက် ခေါ်လိုက်မိသည်။ တုံ့ပြန်သံမကြားရ။

"မြိုင် မြိုင်ရှိလား"

သူအနောက်ဖက် ပြေးသွားမိသည်။ မျက်နှာသစ်သည့်နေရာ မှာလဲ မမြင်ရ။

"မြိုင် မြိုင်ဘယ်မှာလဲ"

အိမ်ရှေ့ပြေးထွက်မိသည်။

"ဟင်"

အိမ်ရှေ့မှာလဲ မမြင်ရ။ သူမဖိနပ်ကိုလဲ မတွေ့ရတော့။

"ဟာ မြိုင် မြိုင် ဘယ်ထွက်သွားလဲ"

ကယောင်ကတမ်းနှင့် အိပ်ရာဆီ ပြန်ရောက်လာသည်။

ဘယ်မှာတွေ့မည်နည်း။ ရှိလိုရှိငြား ညကခြုံထားသောစောင် များကို ဖြဲရှာမိသေး၏။ နောက်မှ

"ဟာ"

ခေါင်းအုံးပေါ်တင်ထားသော စာရွက်တစ်ရွက်။

သူ ဇဝေဇဝါနှင့် မျက်မှောင်ကြုတ်မိသေး၏။ ညက အတူအိပ် ပြီး ဘာစာများ ရေးစရာရှိသနည်း။ သူစဉ်းစားလို့မရ။ ခေါင်းကုတ် ပြီးစဉ်းစားကြည့်သေး၏။ နှစ်ယောက်အတူအိပ်ပြီးမှ လင်နောက် လိုက်စရာလဲ အကြောင်းမရှိ၊ 'စဉ်းစားမရမယ့်အတူ ဖွင့်ဖတ်လိုက်တာ

ကောင်းပါတယ်လေ’ဟု တွေးမိပြီး

ဖွင့်ဖတ်လိုက်မှ

“ဟာ”

စာကိုမြင်တော့ သူလန့်သွားသည်။ ရေးထားသည်က. .

× × ×

**ကိုအောင်သူရိန်**

မြိုင်နှုတ်ဆက်ခဲ့ပါတယ်။

ကိုအောင်သူရိန် မြိုင့်ကို တကယ်ချစ်နေတယ်ဆိုတာ သိခွင့်ရခဲ့ပါတယ်။ မြိုင့်အနေနဲ့လဲ ကိုအောင်သူရိန်ကို မမုန်းပါဘူး။

ဒါပေမယ့် ပြောစရာရှိတာက

ယောကျ်ားတစ်ယောက်နဲ့ မိန်းမတစ်ယောက်တို့ ချစ်ခင်ပေါင်းသင်းကြတယ်ဆိုတာ အမှုတွဲတစ်ခုကို နှစ်ယောက်သား တစ်ပေါင်းစည်းတည်းကျဖို့ ခံဝန်ထိုးထား

ကြသလိုပါပဲ။

ဒါကြောင့် ဖြစ်ပေါ်လာတဲ့ အခက်အခဲ ပြဿနာများကို အတူတကွ လက်တွဲပြီး ကြံ့ကြံ့ခံဖြတ်သန်းရတာမျိုးပါ။

ဘဝမှာကြုံလာတဲ့ အခက်အခဲများကို အတူလက်တွဲပြီး ကျော်ဖြတ်ရတာပဲမဟုတ်လား။

ကိုအောင်သူရိန်နဲ့မြိုင်ကလဲ အမှုတွဲဖြစ်ဖို့ ကံပါတယ်လို့ ထင်ခဲ့ပါတယ်၊ ဘာလုပ်လုပ် အမှုဖြစ်ခဲ့လို့ပေါ့။

အခုတော့

ဒီလိုအခက်အခဲများကို ကျော်ဖြတ်ဖို့

လက်သည်းခွံနဲ့ခြစ်ထားတဲ့ စည်းကလေးကိုတောင် မကျော်ရဲတဲ့ရှင့်ကို ကျွန်မက ဘယ်လိုအားကိုးလို့ရမှာလဲ။

ဒါကြောင့်. .

ကျွန်မထွက်သွားပြီ။

တစ်ဖက်မှာလဲ တခြားသူတွေနဲ့ ခံဝန်ထိုးစရာလေးတွေ ရှိလို့ပါ။

ဘဝမှာ လက်သည်းခွံထက် ကျော်လွန်ရဲတဲ့သတ္တိ ရှိပါစေ ဒါပါပဲ။

မြိုင်

× × ×

"ဟာ သွားပြီ သွားပြီ"

စာဖတ်ပြီး အောင်သူရိန် ကိုယ့်ခေါင်းကိုယ် ပြန်အုပ်ကိုင်ထားမိသည်။

"ဟီး"

မျက်ရည်များ စိမ့်ထွက်လာပြီး ညက သူမလက်သည်းခွံနှင့် ခြစ်ခဲ့သောစည်းကို ပြန်ကြည့်မိသည်။

ထိုနေရာ၌ ဘာစည်းမှမရှိပေ။

အမှုတွဲရှိနေပါလျက်နှင့် အမှုမဖြစ်ခဲ့သော သူ့ကိုယ်သူ နောင်တရနေမိတော့သည်။

လေးစားစွာကြိုးစားလျက်

အာကြည်တော်

